ပြည်သူများနားလည်ရန် လိုအပ်ပါကြောင်း၊ ဥပဒေ၊ နည်းဥပဒေနှင့် အမိန့်ကြေညာချက်များ ထုတ်ပြန်ရာတွင် ပြည်ထောင်စုဝန်ကြီး ဌာနအချင်းချင်း တိုင်ပင်ဆွေးနွေးပြီး ပြည်ထောင်စုရှေ့နေချုပ်ရုံးသို့ တင်ပြဆွေးနွေးရန်လိုကြောင်း။

- သစ်တောကဏ္ဍမှာ ၁၉၉၅ ခုနှစ် သစ်တောမူဝါဒ ရှိကြောင်း၊ သစ်တောနှင့်ပတ်သက်၍ သက်ဆိုင်ရာ ဝန်ကြီးဌာနအပြင် တိုင်းဒေသကြီး ပြည်နယ်ကောင်စီများက သစ်တောမူဝါဒနှင့်အညီ မှန်မှန်ကန်ကန် ထိန်းသိမ်းရန်လိုကြောင်း၊ မိမိတို့နိုင်ငံတွင်လည်း သစ်တောပြုန်းတီးမှုကြောင့် ရာသီဥတုပြောင်းလဲမှုများ ဖြစ်ပေါ်နေကြောင်း၊ သစ်တောပြုန်းတီးမှု အချို့မှာ စိုက်ပျိုးရေးလုပ်ငန်းများ ရွှေ့ပြောင်းလုပ်ကိုင်နိုင်ရန် နေရာအတွက် ခုတ်ထွင်ခြင်း၊ တောင်ယာစိုက်ပျိုးနိုင်ရန်အတွက် ခုတ်ထွင်ခြင်း၊ ထင်းခုတ်ခြင်း၊ မီးသွေးဖုတ်ခြင်းတို့ကြောင့်ဖြစ်ကြောင်း၊ သို့ဖြစ်၍ နောင်ကာလတွင် ကျေးရွာများ၌ သစ်သုံးစွဲမှု၊ ထင်းသုံးစွဲမှုတို့ကိုတွက်ချက်ပြီး ကျေးရွာပိုင်စိုက်ခင်းများကို မဖြစ်မနေစိုက်ပျိုးနိုင်ရန်အတွက် စနစ်တကျဆောင်ရွက်သွားရန်လိုကြောင်း၊ သစ်ထုတ်လုပ်မှုနှင့်ပတ်သက်၍လည်း နိုင်ငံအတွက် လိုအပ်ချက်ကိုသာ ထုတ်လုပ်ရမည်ဖြစ်ပြီး တစ်ဖက်ကလည်း သစ်တောထိန်းသိမ်းရေးမူဝါဒချမှတ်ပြီး ဆောင်ရွက်ရမည်ဖြစ်ကြောင်း။
- မြေယာကိစ္စပြဿနာအချို့မှာ တစ်ချိန်က ရှင်းလင်းဆောင်ရွက်ပြီးသော်လည်း ခေတ်ကာလမြေတန်ဖိုး ပြောင်းလဲလာမှုကြောင့် ဖြစ်ပါကြောင်း၊ မြေယာလျော်ကြေးငွေမှာ ငွေကျပ်ဘီလီယံချီရှိကြောင်း၊ သို့ဖြစ်၍ မြေယာကိစ္စကို မူဝါဒနှင့်အညီ စနစ်တကျဆောင်ရွက်ရန်လိုကြောင်း၊ တပ်မတော်အနေဖြင့်လည်း မူဝါဒ ၄ ရပ်နှင့်အညီ ဧကတစ်သိန်းကျော် စွန့်လွှတ်ပြီးဖြစ်ကြောင်း၊ ဝန်ကြီးဌာနများအနေဖြင့်လည်း အသုံးမပြုသည့် မြေယာများကို စနစ်တကျ ပြန်လည်စွန့်လွှတ်၍ နိုင်ငံတော်ကို အပ်နှံရမည်ဖြစ်ကြောင်း၊ ယခုကော်မတီအနေဖြင့် ဆောင်ရွက်ရမည့်ကိစ္စရပ်များကို အချက်အလက် ခိုင်ခိုင်မာမာတင်ပြပြီး လုံခြုံရေး၊ တည်ငြိမ်ရေးနှင့် တရားဥပဒေစိုးမိုးရေးတို့အတွက် ဝိုင်းဝန်းဆောင်ရွက်သွားကြရန် လိုကြောင်း။

**နိုင်ငံတော်စီမံအုပ်ချုပ်ရေးကောင်စီ အစည်းအဝေး (၄/၂၀၂၁)တွင် ပြောကြားသည့် အမှာစကားကောက်နုတ်ချက် (၁–၃–၂၀၂၁)**

- ရပ်ကွက်၊ ကျေးရွာ အုပ်ချုပ်ရေးမှူးများ အသစ်ပြန်လည်ခန့်အပ်ခြင်းနှင့် ပတ်သက်၍ ၎င်းတို့၏ သက်တမ်းမှာလည်း ဥပဒေအရလဲလှယ်ရမည့်အချိန်ဖြစ်ကြောင်း၊ ယခုအချိန်တွင် ရပ်ကွက်၊ ကျေးရွာအုပ်ချုပ်ရေးမှူးများ တာဝန်

ပေးအပ်ရာတွင် လက်မခံသည့်လုပ်ရပ်မျိုးများ လုပ်ဆောင်နေကြသည်ကို တွေ့ရကြောင်း၊ ရပ်ကွက်၊ ကျေးရွာအုပ်ချုပ်ရေးမှူးများ တာဝန်ပေးအပ်ရာတွင် အများကြည်ညိုလေးစားခံရပြီး အတတ်နိုင်ဆုံး ပါတီနိုင်ငံရေးကင်းရှင်းသူများကိုသာ တာဝန်ပေးအပ်လိုကြောင်း၊ ပါတီနိုင်ငံရေးအရောင်အသွေး မကင်းသည့်အတွက် ယခုလိုလက်မခံသည့် ဖြစ်စဉ်မျိုးများ ဖြစ်ပွားလာခြင်းဖြစ်ကြောင်း၊ ဒီမိုကရေစီစနစ်တွင် ကြိုက်နှစ်သက်သည်၊ မကြိုက်နှစ်သက်သည် ရှိနိုင်ကြောင်း၊ ဒီမိုကရေစီရင့်ကျက်သည့်နိုင်ငံများတွင် စည်းကမ်းဥပဒေနှင့်အညီ တာဝန်ပေးအပ်မှုကို လက်ခံကြကြောင်း၊ ရပ်ကွက်၊ ကျေးရွာများနှင့် အနီးစပ်ဆုံးဖြစ်သည့် မြို့နယ်အုပ်ချုပ်ရေးတာဝန်ရှိသူများသည် နိုင်ငံရေးအရောင်အသွေးကင်းရှင်းရန် လိုအပ်ကြောင်း။

- တောင်သူများကို စိုက်ပျိုးရေးလုပ်ငန်း ကြိုးစားဆောင်ရွက်ရေး အားပေးရန်လိုကြောင်း၊ နိုင်ငံရေး၊ လူမှုရေးနှင့် စီးပွားရေးဦးတည်ချက်များလည်း ချမှတ်ပေးထားကြောင်း၊ လူမှုရေးဦးတည်ချက်တွင် တစ်မျိုးသားလုံးကျန်းမာကြံ့ခိုင်ရေးနှင့် ပညာရည်မြင့်မားရေးဆိုသည့် ဦးတည်ချက်ပါရှိကြောင်း၊ ကျန်းမာရေးအထောက်အကူဖြစ်စေရန်အတွက် တစ်နိုင်ငံလုံးအနေအထားဖြင့် ပြင်ပတွင်ကစားရသည့် အားကစားပွဲများကို ပြန်လည်ကျင်းပရန် လိုအပ်ကြောင်း၊ မိမိတို့နိုင်ငံ၏ အမျိုးသားအားကစားတွင် မြန်မာ့သိုင်းအားကစားနည်းကို ထည့်သွင်းရန် လိုအပ်ကြောင်း၊ ယင်း အားကစားနည်းမှာ အပိုပစ္စည်းမလိုအပ်ဘဲ အားကစားပြုလုပ်နိုင်သည့် ကိုယ်ခံပညာ အားကစားနည်းဖြစ်ကြောင်း၊ သို့ဖြစ်၍ မိမိတို့ရိုးရာအားကစားနည်းများကိုလည်း အားပေးရန်လိုအပ်ကြောင်း။
- မြန်မာ့အားကစားများအား စနစ်ကျပြီး အဆင့်မီသည့် အားကစားများဖြစ်စေရန် ကြိုးပမ်းအားထုတ်၍ အာဆီယံပြိုင်ပွဲများနှင့် နိုင်ငံတကာပြိုင်ပွဲများတွင် ဝင်ရောက်ယှဉ်ပြိုင်နိုင်ရန်အတွက် တိုင်းဒေသကြီးနှင့် ပြည်နယ်များအလိုက် အားပေးဆောင်ရွက် သွားရမည်ဖြစ်ကြောင်း၊ ကုန်သွယ်မှုလုပ်ငန်းများ တိုးတက်စေရန်အတွက် နယ်စပ်ဂိတ် အားလုံးနီးပါးအား ဖွင့်လှစ်ခွင့်ပြုထားပေးပြီးဖြစ်ကြောင်း၊ တိုက်ပွဲရှောင်ပြည်သူများ နေရပ်ပြန်လည် နေထိုင်နိုင်ပြီး အာမခံချက်ရှိသည့် လူမှုစီးပွားဘဝရရှိစေရန် ဆောင်ရွက်ပေးရမည်ဖြစ်ကြောင်း၊ COVID-19 ရောဂါကာကွယ်ဆေးများ ဆက်လက်ထိုးနှံနိုင်ရေးအတွက် ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ ဆူပူဆန္ဒပြမှုများဖြစ်ပေါ်စေရန်အတွက် လူမှုကွန်ရက်စာမျက်နှာများမှတစ်ဆင့် သွေးထိုးဆောင်ရွက်နေသည်ကို တွေ့ရှိရကြောင်း၊ မိမိတို့အနေဖြင့်အတတ်နိုင်ဆုံး၊ အငြိမ်းချမ်းဆုံးဖြစ်အောင် ထိန်းသိမ်းဆောင်ရွက်လျက်ရှိကြောင်း၊ မလေးရှားနိုင်ငံတွင်ရောက်ရှိပြီး ထိန်းသိမ်းခံထားရသည့် မြန်မာနိုင်ငံသားများအား မိမိတို့နိုင်ငံသို့ ပြန်လည်ဝင်ရောက်နိုင်ရေး

ဆောင်ရွက်ခဲ့ရာ ၁၀၈၆ ဦးအား တပ်မတော်ရေယာဉ်များဖြင့် ခေါ်ဆောင်ပေးနိုင်ခဲ့ပြီး ကျန်ရှိသူများအား ဆက်လက်ခေါ်ဆောင်နိုင်ရေး ဆောင်ရွက်လျက်ရှိကြောင်း၊ ယခုကဲ့သို့ ပြည်ပနိုင်ငံသို့ရောက်ရှိနေသည့် မြန်မာနိုင်ငံသားများအား ပြန်လည်ခေါ်ယူနိုင်ခဲ့ခြင်းသည် မိမိတို့ကောင်စီ၏ အောင်မြင်မှုတစ်ခုပင် ဖြစ်ကြောင်း။

**အမျိုးသားစည်းလုံးညီညွတ်ရေးနှင့် ငြိမ်းချမ်းရေးဖော်ဆောင်မှုဗဟိုကော်မတီ အစည်းအဝေး(၁/၂၀၂၁)တွင် ပြောကြားသည့် အမှာစကားကောက်နုတ်ချက် (၃-၃-၂၀၂၁)**

- မိမိတို့တာဝန်ယူပြီးနောက်တွင် ငြိမ်းချမ်းရေးလုပ်ငန်းစဉ်ကို ကျယ်ကျယ်ပြန့်ပြန့် ဆောင်ရွက်နိုင်ရန် အမျိုးသားစည်းလုံးညီညွတ်ရေးနှင့် ငြိမ်းချမ်းရေးဖော်ဆောင်မှု ဗဟိုကော်မတီ၊ လုပ်ငန်းကော်မတီနှင့် ညှိနှိုင်းရေးကော်မတီများ ဖွဲ့စည်းဆောင်ရွက်ခဲ့ကြောင်း၊ ငြိမ်းချမ်းရေးနှင့်ပတ်သက်ပါက နိုင်ငံတော်စီမံအုပ်ချုပ်ရေးကောင်စီ၏ ရှေ့လုပ်ငန်းစဉ် (၅)ရပ်တွင် “တစ်နိုင်ငံလုံး ထာဝရငြိမ်းချမ်းရေး ရရှိစေရန်အတွက် တစ်နိုင်ငံလုံး ပစ်ခတ်တိုက်ခိုက်မှုရပ်စဲရေး သဘောတူစာချုပ် (NCA) ပါ သဘောတူညီချက်များအတိုင်း ဖြစ်နိုင်သမျှ အလေးထားဆောင်ရွက်သွားမည်” ဟူသည့် လုပ်ငန်းစဉ် ချမှတ်ထားသကဲ့သို့ နိုင်ငံတော်စီမံအုပ်ချုပ်ရေးကောင်စီ၏ နိုင်ငံရေးဦးတည်ချက်တွင်လည်း “တစ်နိုင်ငံလုံး ထာဝရငြိမ်းချမ်းရေး ရရှိရေးအတွက် တစ်နိုင်ငံလုံး ပစ်ခတ်တိုက်ခိုက်မှု ရပ်စဲရေး သဘောတူစာချုပ် (NCA) ပါအတိုင်း အလေးထား ဆောင်ရွက်သွားရေး” ဟူသည့် ဦးတည်ချက်ချမှတ်ပြီး NCA ကို အလေးထားအကောင်အထည်ဖော် ဆောင်ရွက်သွားရန် ဦးတည်ရည်မှန်းထားခြင်းကို တွေ့ရမည်ဖြစ်ကြောင်း။
- NCA သည် ပစ်ခတ်တိုက်ခိုက်မှု ရပ်စဲရေးမှတစ်ဆင့် တိုင်းရင်းသားပြည်သူအားလုံး အလိုရှိနေသည့် ဒီမိုကရေစီနှင့် ဖက်ဒရယ်စနစ်တို့ကို အခြေခံသည့် ပြည်ထောင်စုတည်ဆောက်ရေးအတွက် လိုအပ်သော အခင်းအကျင်းများကို အုတ်မြစ်ချထားခြင်းဖြစ်ကြောင်း၊ ယင်းအပေါ်တွင် မိမိတို့အနေဖြင့် ညှိနှိုင်းဆွေးနွေးအဖြေရှာပြီး သဘောတူညီချက်များအရ ဆက်လက်အကောင်အထည်ဖော် တည်ဆောက်သွားနိုင်မှသာ ပြီးပြည့်စုံသည့် ပြည်ထောင်စုပုံသဏ္ဌာန် ပေါ်ပေါက်လာမည် ဖြစ်ကြောင်း၊ ယင်းနေရာတွင် တွေ့ဆုံညှိနှိုင်း အဖြေရှာခြင်းဆိုသည့် ဒီမိုကရေစီ ယဉ်ကျေးမှုကို လိုက်နာရန် အလွန်အရေးကြီးကြောင်း။
- မဲမသမာမှုများနှင့်ပတ်သက်ပြီး ယခင် UEC နှင့် နိုင်ငံရေးပါတီများအကြား တွေ့ဆုံညှိနှိုင်းဖြေရှင်းပေးရန်၊ ပြည်ထောင်စုလွှတ်တော် အထူးအစည်းအဝေး

ခေါ်ယူဖြေရှင်းပေးရန်နှင့် အမျိုးသားကာကွယ်ရေးနှင့် လုံခြုံရေးကောင်စီ အစည်းအဝေးခေါ်ယူပေးရန် အကြိမ်ကြိမ်တိုက်တွန်းခဲ့သော်လည်း တွေ့ဆုံဆွေးနွေးသည့် လမ်းကြောင်းကို ငြင်းပယ်ခဲ့သည့်အတွက် ဖွဲ့စည်းပုံအခြေခံဥပဒေက တာဝန်ပေးအပ်ထားချက်အရ တပ်မတော်က မလွှဲမရှောင်သာ ဆောင်ရွက်ခဲ့ရခြင်းဖြစ်ကြောင်း၊ မိမိတို့အနေဖြင့် မိမိတို့တိုင်းရင်းသားများကြားတွင် မကျေလည်မှုများ၊ သံသယများ၊ မယုံကြည်မှုများ၊ စိုးရိမ်မှုများသည် တွေ့ဆုံဆွေးနွေး ညှိနှိုင်းအဖြေရှာခြင်းဆိုသည့် ဒီမိုကရေစီယဉ်ကျေးမှုကို ကျင့်သုံးခြင်းဖြင့် အမျိုးသားစည်းလုံးညီညွတ်ရေးနှင့် ငြိမ်းချမ်းရေးကို ဖော်ဆောင်နိုင်မည် ဆိုခြင်းကို မီးမောင်းထိုးပြလိုခြင်း ဖြစ်ကြောင်း။

- ဖက်ဒရယ်စနစ်နှင့်ပတ်သက်ပြီး မိမိတို့လိုရာကို အဓိပ္ပာယ်အမျိုးမျိုး၊ စံနှုန်းအမျိုးမျိုးဖွင့်ဆိုပြီး ပြောနေကြသော်လည်း အနှစ်သာရအနေဖြင့် ပေါင်းစည်းခြင်းနှင့်သဟဇာတဖြစ်မှုပင်ဖြစ်ကြောင်း၊ ဖက်ဒရယ်သည် မတူကွဲပြားသည့် တိုင်းဒေသကြီးများ၊ ပြည်နယ်များ၊ လူမျိုးများ၊ လူမျိုးစုများ စုစည်းထားရာမှ အချုပ်အခြာအာဏာဖြစ်သည့် အာဏာ (၃)ရပ်ကို ခွဲဝေကျင့်သုံးခြင်းပင်ဖြစ်ကြောင်း၊ ထိုသို့ဆောင်ရွက်ရာတွင် ပြည်ထောင်စု၊ တိုင်းဒေသကြီး၊ ပြည်နယ်အကြား ဖွဲ့စည်းပုံအခြေခံဥပဒေအရ အာဏာခွဲဝေဆောင်ရွက်သွားခြင်းဖြင့် တိုင်းဒေသကြီး၊ ပြည်နယ်များသည် ကိုယ်ပိုင်အုပ်ချုပ်ခွင့်၊ ကိုယ်ပိုင်တရား စီရင်ခွင့်၊ ကိုယ်ပိုင်ဥပဒေပြဋ္ဌာန်းခွင့်ဟူသည့် တိုင်းဒေသကြီး၊ ပြည်နယ်အလိုက် အခြေခံဥပဒေအရ ကိုယ်ပိုင်ပြဋ္ဌာန်းခွင့်ရရှိမည်ဖြစ်ပါကြောင်း၊ မိမိတို့နိုင်ငံ၏ တိုင်းဒေသကြီး၊ ပြည်နယ်များတွင် လူမျိုးတစ်မျိုးတည်းသာနေထိုင်သည့် တိုင်းဒေသကြီး၊ ပြည်နယ်ဟူ၍ လုံးဝမရှိကြောင်း၊ လူမျိုးပေါင်းစုံ ရောယှက်နေထိုင်ကြကြောင်း၊ တိုင်းဒေသကြီးများတွင်လည်း တိုင်းရင်းသားများ ပျံ့နှံ့နေထိုင်နေသည်ကို တွေ့ရမည်ဖြစ်ကြောင်း။
- အမျိုးသားစည်းလုံးညီညွတ်ရေး၊ ငြိမ်းချမ်းရေး ဖော်ဆောင်ရေးနှင့်ပတ်သက်ပြီး–
  - (က) ဒီမိုကရေစီနှင့် ဖက်ဒရယ်စနစ်တို့ကို အခြေခံသည့် ပြည်ထောင်စု တည်ဆောက်ရန်၊
  - (ခ) တွေ့ဆုံဆွေးနွေးညှိနှိုင်း အဖြေရှာခြင်းဆိုသည့် ဒီမိုကရေစီယဉ်ကျေးမှုကိုကျင့်သုံးခြင်းဖြင့်အမျိုးသားစည်းလုံးညီညွတ်ရေးနှင့် ငြိမ်းချမ်းရေးကို ဖော်ဆောင်ရန်၊
  - (ဂ) အမျိုးသားစည်းလုံးညီညွတ်ရေးအတွက် လိုအပ်သည့် မဟာဗျူဟာများ ချမှတ်ဆောင်ရွက်ရန်၊
  - (ဃ) ငြိမ်းချမ်းရေးဖော်ဆောင်မှုနှင့်အတူ ပြန်လည်ထူထောင်ရေးနှင့် ဖွံ့ဖြိုးရေးလုပ်ငန်းများကိုလည်း စီမံချက်များ ချမှတ်ဆောင်ရွက်ရန်နှင့်

( င ) လူ့အဖွဲ့အစည်းအတွင်းတွင် ကွဲပြားစေမည့် အခြေခံအကြောင်းအရာများကို သုတေသနပြုဖော်ထုတ်ပြီး ကာကွယ်တားဆီးဆောင်ရွက်သွားရန် စသည့် လမ်းညွှန်ချက် (၅)ရပ်ကို ဆက်လက်အကောင်အထည်ဖော်ဆောင်ရွက်သွားရမည်ဖြစ်ကြောင်း။

**နိုင်ငံတော်စီမံအုပ်ချုပ်ရေးကောင်စီ အစည်းအဝေး ( ၅/ ၂၀၂၁ )တွင် ပြောကြားသည့် အမှာစကားကောက်နုတ်ချက် (၈-၃-၂၀၂၁)**

- နိုင်ငံတော်စီမံအုပ်ချုပ်ရေးကောင်စီ စတင်တာဝန်ယူခဲ့သည့် ပထမရက်သတ္တပတ်အတွင်း ပုံမှန်အခြေအနေရှိခဲ့သော်လည်း ယင်းနောက်ပိုင်းတွင် ဆန္ဒပြမှုများရှိသဖြင့် မိမိတို့အနေဖြင့် ဒီမိုကရေစီကျင့်စဉ်နှင့်အညီ ဖြေရှင်းဆောင်ရွက်ခဲ့ကြောင်း၊ ပြီးခဲ့သည့်ရက်သတ္တပတ်အထိ မြို့နယ် ၂၀၀ ကျော်တွင် ဆန္ဒပြမှုများရှိခဲ့ပြီး ဖေဖော်ဝါရီ ၂၈ ရက်မှစတင်၍ အကြမ်းဖက်လုပ်ရပ်များ စတင်လာသည်ကိုတွေ့ရပြီး လုံခြုံရေးဝန်ထမ်းများအား ဓား၊ ဂျင်ကလိ၊ လေးခွ၊ ကုန်းသီး၊ တူမီး၊ လုပ်သေနတ်တို့နှင့် ပစ်ခတ်တိုက်ခိုက်သည့်အပြင် မီးရှို့ဖျက်ဆီးခြင်း လုပ်ရပ်များကိုလည်း ဆောင်ရွက်လာကြောင်း၊ ဆူပူဆန္ဒပြသူအချို့ကို ဖမ်းဆီးခဲ့သော်လည်း တချို့ကို စစ်ဆေးပြီး ပြန်လွှတ်ရန် စီစဉ်နေကြောင်း၊ တရားဥပဒေစိုးမိုးရေးနှင့် လုံခြုံရေး ဆောင်ရွက်ရာတွင် အသက်သာဆုံးနှင့် အညင်သာဆုံးဆောင်ရွက်ခဲ့ကြောင်း။
- CDM လှုပ်ရှားမှုအတွက် ငွေကြေးထောက်ပံ့မှုများ ဆောင်ရွက်နေသည်ကို တွေ့ရသဖြင့် ငွေကြေးစီးဝင်မှု အရင်းအမြစ်များကို စိစစ်ဖော်ထုတ်နေကြောင်း၊ နိုင်ငံတကာတွင် ဒီမိုကရေစီစနစ်အရ ဆန္ဒပြမှုများရှိသော်လည်း အစိုးရနှင့် အုပ်ချုပ်မှုအဖွဲ့အစည်းများကိုသာ ဆန္ဒပြခြင်းဖြစ်ပြီး စီးပွားရေးထိခိုက်အောင် လုပ်ဆောင်ခြင်း မရှိပါကြောင်း၊ သို့သော်လည်း မိမိတို့နိုင်ငံတွင် စက်ရုံ၊ အလုပ်ရုံများ၊ ခရီးသွားလာရေး လုပ်ငန်းများ၊ ငွေကြေးလည်ပတ်မှုများ၊ ကုန်ထုတ်လုပ်မှုများ ထိခိုက်အောင် ဆောင်ရွက်နေသည်ကို တွေ့ရကြောင်း။
- ဒီမိုကရေစီစနစ်အရ နိုင်ငံတကာတွင် ဆန္ဒပြမှုများ ရှိပါကြောင်း၊ ဆန္ဒပြမှုမဟုတ်ဘဲ အကြမ်းဖက်လုပ်ရပ်များ ဆောင်ရွက်လာပါက ဖြိုခွင်းနှိမ်နင်းမှုများ ရှိပါကြောင်း၊ မိမိတို့အနေဖြင့် သိမ်သိမ်မွေ့မွေ့ ကိုင်တွယ်ဖြေရှင်း ဆောင်ရွက်နေပါကြောင်း၊ သို့သော်လည်း မီဒီယာများက ဆူပူဆန္ဒပြသူများ၏ အကြမ်းဖက်လုပ်ရပ်များအား ဖော်ပြမှုမရှိသည့်အပြင် လုံခြုံရေးတပ်ဖွဲ့ဝင်များ၏ ဥပဒေနှင့်အညီ ဖြေရှင်းဆောင်ရွက်နေမှု အပြည့်အစုံကိုလည်း ဖော်ပြခြင်းမရှိဘဲ ၎င်းတို့လိုအပ်သည့် အပိုင်းများသာ ရွေးချယ်ရိုက်ကူး၍ ထပ်ကာထပ်ကာ ထုတ်လွှင့်ပြီး ပြည်သူများနှင့် နိုင်ငံတကာမှ အမြင်မှားစေရန် ဆောင်ရွက်နေသည်ကို တွေ့ရကြောင်း။

- တိုင်းပြည်စီးပွားရေးအတွက် အဓိက မောင်းနှင်အားဖြစ်သည့် ဘဏ်လုပ်ငန်းများ ပုံမှန်လည်ပတ်စေရန်အတွက် ဆောင်ရွက်သွားရမည်ဖြစ်ကြောင်း၊ ပြည်ပရင်းနှီးမြှုပ်နှံမှုနှင့် နည်းပညာများကိုလည်း ဖိတ်ခေါ်ရန် လိုအပ်ပြီး ပြည်တွင်းအသေးစားနှင့် အလတ်စား စီးပွားရေးလုပ်ငန်းများကို အားပေးသွားရမည်ဖြစ်ကြောင်း၊ ထို့ကြောင့် ပြည်တွင်းကုန်ထုတ်လုပ်မှုများ တိုးတက်စေရန်အတွက် စိုက်ပျိုးရေးနှင့် မွေးမြူရေးကို အခြေခံသည့် ကုန်ထုတ်လုပ်မှုလုပ်ငန်းများကို အားပေးဆောင်ရွက်ရမည်ဖြစ်ကြောင်း၊ ကလေးငယ်များပညာ သင်ကြားရေးနှင့် ပတ်သက်၍ အခြေခံပညာကျောင်းများအား COVID–19 စည်းကမ်းချက်များနှင့်အညီ တစ်ပြိုင်တည်း ဖွင့်လှစ်နိုင်ရေး ဆောင်ရွက်လျက်ရှိကြောင်း၊ ပြန်လည်ဖွင့်လှစ်ခွင့်ပြုရန် တင်ပြထားသည့် ဘုန်းတော်ကြီးသင် ပညာရေးကျောင်းများကိုလည်း COVID–19 စည်းကမ်းချက်များနှင့်အညီ ခွင့်ပြုပေးသွားမည်ဖြစ်ကြောင်း။

**အပြည်ပြည်ဆိုင်ရာအမျိုးသမီးများနေ့ အထိမ်းအမှတ်အခမ်းအနားသို့ ပေးပို့သည့် အမှာစကားကောက်နုတ်ချက် (၈–၃–၂၀၂၁)**

- မြန်မာနိုင်ငံ လူဦးရေ ၅၄ ဒသမ ၉ သန်းခန့်မှာ အမျိုးသမီးပါဝင်မှုက ၅၂ ရာခိုင်နှုန်းဖြစ်ပါတယ်။ နယ်ပယ်စုံ၊ ကဏ္ဍစုံတွေမှာ အမျိုးသမီးများရဲ့ အခန်းကဏ္ဍဟာ တစ်နေ့ထက်တစ်နေ့ ပိုမိုတိုးတက်မြင့်မားနေပြီး နိုင်ငံတော်ရဲ့ ကာကွယ်ရေးနဲ့ လုံခြုံရေးတာဝန်တွေမှာလည်း စစ်မှုထမ်း၊ ရဲမှုထမ်းများအဖြစ် အမျိုးသားများနဲ့ ရင်ပေါင်တန်းပြီး တာဝန်ထမ်းဆောင်နေကြတာ တွေ့မြင်ရမှာ ဖြစ်ပါတယ်။ ဒါကြောင့် မြန်မာအမျိုးသမီးများ အပါအဝင် ကမ္ဘာတစ်ဝန်းလုံးရှိ အမျိုးသမီးထုကို ကိုယ်စားပြုတဲ့အနေနဲ့ နှစ်စဉ် မတ်လ ၈ ရက်နေ့ ရောက်တိုင်း အပြည်ပြည်ဆိုင်ရာ အမျိုးသမီးများနေ့အဖြစ် နိုင်ငံတကာမှာ အခမ်းအနားတွေကျင်းပတဲ့နည်းတူ ကျွန်တော်တို့ နိုင်ငံမှာလည်း မြန်မာအမျိုးသမီးများရဲ့ အရေးပါတဲ့ အခန်းကဏ္ဍကို ထင်ဟပ်ပေါ်လွင်စေဖို့ အခုလို နိုင်ငံတော်အဆင့်အခမ်းအနားများ ကျင်းပရခြင်း ဖြစ်ပါတယ်။
- ကျွန်တော်တို့နိုင်ငံမှာ မြန်မာနိုင်ငံလုံးဆိုင်ရာ အမျိုးသမီးကော်မတီနဲ့ ဒေသဆိုင်ရာကော်မတီ အဆင့်ဆင့်ဖွဲ့စည်းပြီး အမျိုးသမီးများရဲ့အခန်းကဏ္ဍ တိုးတက်မြင့်မားရလေအောင် ကြိုးစားအကောင်အထည်ဖော် ဆောင်ရွက်လျက်ရှိပါတယ်။ ဒီလိုလုပ်ဆောင်ရာမှာ အမျိုးသမီးများ ဖွံ့ဖြိုးတိုးတက်ရေးဆိုင်ရာ အမျိုးသားအဆင့် မဟာဗျူဟာစီမံကိန်း (၂၀၁၃–၂၀၂၂) ရေးဆွဲ အကောင်အထည်ဖော်မှု၊ အမျိုးသမီးများအပေါ် အကြမ်းဖက်မှု တားဆီးကာကွယ်ရေးဥပဒေ (မူကြမ်း) ရေးဆွဲထားရှိမှု၊ မြန်မာနိုင်ငံအတွက် ရေရှည်တည်တံ့ခိုင်မြဲပြီး

ဟန်ချက်ညီသော ဖွံ့ဖြိုးတိုးတက်မှုစီမံကိန်း(Myanmar Sustainable Development Plan – MSDP)၊ COVID–19 ကြောင့် စီးပွားရေးထိခိုက်မှုသက်သာရေး စီမံချက် (COVID–19 Economic Relief Plan – CERP)ကို ရေးဆွဲအကောင်အထည်ဖော်မှုတို့ဟာ မြန်မာအမျိုးသမီးများအတွက် ထိရောက်တဲ့ အထောက်အပံ့ကောင်းများ ရရှိစေတဲ့လုပ်ငန်းစဉ်တွေ ဖြစ်ပါတယ်။

- ကမ္ဘာ့ကုလသမဂ္ဂက ယခု ၂၀၂၁ ခုနှစ်၊ အပြည်ပြည်ဆိုင်ရာ အမျိုးသမီးများနေ့အတွက် ချမှတ်ထားတဲ့ ဦးတည်ချက်ဆောင်ပုဒ်ကတော့ Women in leadership: Achieving an equal future in a COVID–19 world (တန်းတူညီမျှတဲ့ အနာဂတ်ဖော်ဆောင်ဖို့ အမျိုးသမီးကဏ္ဍမြှင့်တင်လို့ COVID–I9 တုံ့ပြန်စို့) ဖြစ်ပါတယ်။ ဒါကြောင့် ဒီဆောင်ပုဒ်နဲ့ ကျွန်တော်တို့နိုင်ငံရဲ့ လက်ရှိ လုပ်ဆောင်မှုများက ကိုက်ညီမှုရှိနေတယ်ဆိုတာ တွေ့ရမှာ ဖြစ်ပါတယ်။
- ဒီနေ့အချိန်ကာလဟာ ကမ္ဘာ့နိုင်ငံများအားလုံးCOVID–19 ကပ်ရောဂါ ဖြစ်ပွားမှုများနဲ့ ရင်ဆိုင်နေရချိန် ဖြစ်ပါတယ်။ မြန်မာနိုင်ငံအနေနဲ့လည်း ဒီကပ်ရောဂါကို အန်တုရင်ဆိုင်ရင်း ဒီရောဂါဖြစ်ပွားမှုကြောင့် ယိုယွင်းပျက်စီးအားနည်းခဲ့ရတဲ့ ကဏ္ဍပေါင်းစုံကို ပြန်လည်ထူထောင်ရေး ကြိုးပမ်းနေကြပါတယ်။ ကျွန်တော်တို့မြန်မာအမျိုးသမီးများဟာ အမျိုးသားများနဲ့အတူ အင်တိုက်အားတိုက်၊ စိတ်ပါလက်ပါ တက်တက်ကြွကြွနဲ့ ပါဝင်ဆောင်ရွက်နေကြတာကို ဂုဏ်ယူဝမ်းမြောက်ဖွယ် တွေ့မြင်ရတဲ့အတွက် မြန်မာအမျိုးသမီးများကို ချီးကျူးဂုဏ်ပြုပါကြောင်းနဲ့ လေးစားအသိအမှတ်ပြုပါကြောင်း ပြောကြားလိုပါတယ်။

## စီမံခန့်ခွဲရေးကော်မတီအစည်းအဝေး(၃/၂၀၂၁)တွင် ပြောကြားသည့် အမှာစကား ကောက်နုတ်ချက် (၁၁–၃–၂၀၂၁)

- မိမိတို့ စတင်တာဝန်ယူသည့်အချိန်မှစ၍ ချမှတ်ထားသည့် ရှေ့လုပ်ငန်းစဉ် ၅ ရပ်တွင် COVID–19 ကြောင့် ယိုင်နဲ့သွားသည့် စီးပွားရေးလုပ်ငန်းများ ပြန်လည်တည့်မတ်အောင် ဆောင်ရွက်ရမည်ဟုပါရှိကြောင်း၊ တိုင်းပြည်၏အဓိက မောင်းနှင်အားသုံးခုတွင် စီးပွားရေးသည် ပို၍ အဓိကကျကြောင်း၊ ဦးတည်ချက် ၉ ရပ်တွင် ပါဝင်သည့် စိုက်ပျိုးမွေးမြူရေးကို အခြေခံသည့် စီးပွားရေးကို အဓိကလုပ်ရန်၊ ဈေးကွက်စီးပွားရေးကို ပီပီပြင်ပြင်ဖော်ဆောင်၍ နိုင်ငံတကာရင်းနှီးမြှုပ်နှံမှုများကို ဖိတ်ခေါ်ရန်နှင့် အဆိုပါအချက်များနှင့် ဆက်စပ်သည့် ပြည်တွင်းစီးပွားရေးလုပ်ငန်း SME များကိုလည်း အားပေးကူညီ ဆောင်ရွက်ရမည်ဖြစ်ကြောင်း၊ စီးပွားရေးဆိုင်ရာလုပ်ငန်းများ ရေတို/ရေရှည် ဆောင်ရွက်နိုင်ရန်အတွက် သက်ဆိုင်ရာဌာနများအလိုက် ဆောင်ရွက်သွားကြရန်နှင့် အခြားဌာနများအနေဖြင့်လည်း ပူးပေါင်းဆောင်ရွက်ခြင်း၊ အကြံဉာဏ်ပေးဆောင်ရွက်ခြင်း

ဖြင့် လုပ်ငန်းများ ပိုမိုတိုးတက်အောင်မြင်အောင် ဆောင်ရွက်ရမည်ဖြစ်ကြောင်း။

- ဝန်ကြီးဌာနများတွင် ဝန်ထမ်းများ တာဝန်ထမ်းဆောင်မှု၊ လုပ်ငန်းများ ဆောင်ရွက်မှုနှင့်ပတ်သက်၍ မိမိတို့သည် ပါတီစုံဒီမိုကရေစီလမ်းကြောင်းကို သွားနေခြင်းဖြစ်ကြောင်း၊ ဒီမိုကရေစီစနစ်သည် ဝါဒမဟုတ်ဘဲ ကျင့်စဉ်တစ်ခုသာဖြစ်ပြီး ဝန်ကြီးဌာနများအနေဖြင့် ဒီမိုကရေစီကျင့်စဉ်နှင့်အညီ ဆောင်ရွက်သွားရန် လိုအပ်ကြောင်း၊ မိမိတို့ လက်အောက်ဝန်ထမ်းများကို နားလည်အောင် ရှင်းလင်းပြောကြား ဆောင်ရွက်ပေးရန်လိုကြောင်း၊ ဝန်ထမ်းများ ရာထူးတိုးမြှင့်ရေးများနှင့်ပတ်သက်၍ လုပ်ငန်းကျွမ်းကျင်ပြီး နိုင်ငံတော်အပေါ် သစ္စာစောင့်သိသူများကိုလည်း ထိုက်သင့်သည့်အဆင့်သို့ တိုးမြှင့်ပေးရန် ပြောကြားပြီးဖြစ်ကြောင်း။
- ဘဏ်လုပ်ငန်းများနှင့်ပတ်သက်၍ ဘဏ်များသည် ငွေကြေးစီးဆင်းမှုအတွက် အဓိကဆောင်ရွက်နေသည့် လုပ်ငန်းဖြစ်ကြောင်း၊ ဘဏ်လုပ်ငန်းများစည်းကမ်းနှင့်အညီ ပုံမှန်လည်ပတ်ရန်လိုအပ်ပြီး စည်းကမ်းလိုက်နာမှု မရှိသည့် ဘဏ်များအား ဥပဒေနှင့်အညီ အရေးယူ ဆောင်ရွက်ရန်လိုအပ်ကြောင်း၊ ခေတ်စနစ်နှင့်လျော်ညီ သည့် ဘဏ်စနစ်ဖြစ်စေရန်အတွက်လည်း ဆောင်ရွက် သွားရန်လိုကြောင်း၊ ဘဏ်လုပ်ငန်းများ ပုံမှန်လည်ပတ် နိုင်မှသာ ပြည်သူများ၏ ငွေကြေးနှင့်ပတ်သက်သော လုပ်ငန်းရပ်များ အဆင်ပြေစွာ ပြန်လည် လည်ပတ်နိုင်ကြမည် ဖြစ်ကြောင်း။
- တိုင်းပြည်တစ်ခုတွင် ပညာရေးမကောင်းပါက တိုးတက်မှုမရှိနိုင်ကြောင်း၊ ထို့ကြောင့် ပညာရေးကို အဆင့်မြှင့်တင်ရန်လိုအပ်ပြီး ထိုသို့အဆင့်မြှင့်တင်ခြင်းများ ဆောင်ရွက်ရာတွင်လည်း ကျောင်းသား၊ ကျောင်းသူများ အစမ်းသပ်ခံ မဖြစ်စေရေးအတွက် ရှိပြီးသား အမျိုးသားမဟာ ဗျူဟာ စီမံကိန်းများအပေါ်တွင်သာ အခြေခံပြီး ဆောင်ရွက်သွားရန်လိုကြောင်း၊ ကျောင်းများပိတ်ထားခြင်းသည် ကျောင်းသား၊ ကျောင်းသူတစ်ဦးချင်းစီ၏ နစ်နာဆုံးရှုံးမှုအပြင်၊ တိုင်းပြည်အတွက်လည်း နစ်နာကြောင်း၊ ထို့ကြောင့်ကျောင်းများ စနစ်တကျ ပြန်လည်ဖွင့်လှစ်နိုင်ရေးအတွက် ကြိုတင်ပြင်ဆင်လျက်ရှိကြောင်း။

**နိုင်ငံတော်စီမံအုပ်ချုပ်ရေးကောင်စီအစည်းအဝေး ( ၆ /၂၀၂၁ )တွင် ပြောကြားသည့် အမှာစကားကောက်နုတ်ချက် (၁၅-၃-၂၀၂၁)**

- ၂၀၂၀ ရွေးကောက်ပွဲရလဒ်အပေါ် အရေးယူဆောင်ရွက်ချက်နှင့်ပတ်သက်၍ အနိုင်ရပါတီအား ထောက်ခံသူများက ၎င်းတို့၏မကျေနပ်မှုများအား ထုတ်ဖော်ဆန္ဒပြမှုများမှတစ်ဆင့် ယခုအချိန်တွင် ဆူပူအကြမ်းဖက်မှုများအသွင်သို့ ရောက်ရှိ

လာကြောင်း၊ မိမိတို့အနေဖြင့် ဒီမိုကရေစီကျင့်စဉ်နှင့်အညီ တတ်နိုင်သမျှ လူအင်အားအနည်းဆုံးဖြင့် မြန်မာနိုင်ငံရဲတပ်ဖွဲ့ကို တာဝန်ပေးဆောင်ရွက်ခဲ့ပြီး တပ်မတော်အနေဖြင့် လိုအပ်ချက်ရှိသည့်နေရာများတွင် ရဲတပ်ဖွဲ့ဝင်များ၏ အနောက်မှနေ၍ ကူညီဆောင်ရွက်ပေးခြင်းနှင့် အခက်အခဲအတားအဆီးများ အား ကူညီဖြေရှင်း ဆောင်ရွက်ပေးခြင်းများ ပြုလုပ်ပေးလျက်ရှိကြောင်း၊ ဆူပူ ဆန္ဒပြမှုဖြစ်စဉ်များ ဖြစ်ပွားမှုနည်းပါးလာသော်လည်း အချို့နေရာများတွင် ဆူပူ မှုများသာမက လုံခြုံရေးတပ်ဖွဲ့ဝင်များအပေါ် အကြမ်းဖက်မှုများနှင့် ပြည်သူပိုင် ပစ္စည်းများ၊ စက်ရုံ၊ အလုပ်ရုံများကို မီးရှို့ဖျက်ဆီးမှုများ ပြုလုပ်လာသဖြင့် လုံခြုံရေးတပ်ဖွဲ့ဝင်များအနေဖြင့် ခက်ခဲစွာ ဖြေရှင်းဆောင်ရွက်ခဲ့ရကြောင်း၊ ဆူပူ ဆန္ဒပြသူများက မြန်မာနိုင်ငံရဲတပ်ဖွဲ့စခန်းများကို အကြမ်းဖက် ဝင်ရောက် စီးနင်းခြင်း၊ အုပ်ချုပ်မှုရုံးများကို ဝင်ရောက်စီးနင်းခြင်းနှင့် စက်ရုံ၊ အလုပ်ရုံများကို မီးရှို့ ဖျက်ဆီးချိန်တို့တွင် လူစုကွဲစေရန်အတွက် ပစ်ခတ်ရှင်းလင်းမှုများ ပြုလုပ် ချိန်၌ လုံခြုံရေးတပ်ဖွဲ့ဝင်တချို့နှင့် ဆူပူဆန္ဒပြသူတချို့သေဆုံးပြီး တချို့ဒဏ်ရာ ရရှိခြင်းများ ရှိခြင်းကြောင့် မတ်လ ၁၄ ရက် ညပိုင်းတွင် ရန်ကုန်မြို့ရှိ ရွှေပြည်သာ မြို့နယ်နှင့် လှိုင်သာယာမြို့နယ်တို့အား စစ်အုပ်ချုပ်ရေး (Martial Law) ထုတ်ပြန် ခဲ့ရကြောင်း၊ ယနေ့ နံနက်ပိုင်းတွင် ဒဂုံမြို့သစ်မြို့နယ် (တောင်ပိုင်း)နှင့် (မြောက် ပိုင်း)၊ မြောက်ဥက္ကလာပနှင့် ဒဂုံမြို့သစ် (ဆိပ်ကမ်း)မြို့နယ်တို့တွင်လည်း ဆက်လက်ထုတ်ပြန် ဆောင်ရွက်ခဲ့ကြောင်း။

- တက္ကသိုလ်များနှင့် အခြေခံပညာကျောင်းများ ပိတ်ထားသည့်အတွက် ကျောင်းသား၊ ကျောင်းသူများ၊ မိဘများနှင့် နိုင်ငံတော်အတွက် နစ်နာမှုများ ဖြစ်ပေါ်လျက်ရှိသဖြင့် အမြန်ဆုံးပြန်လည်ဖွင့်လှစ်နိုင်ရေး ဆောင်ရွက်ရန်လို ကြောင်း၊ တက္ကသိုလ်များတွင် သက်ဆိုင်ရာဘာသာရပ်အလိုက် ပညာရပ်များ အား ထူးချွန်စွာသင်ယူနိုင်ရေးအတွက်ဆောင်ရွက်ရန် လိုကြောင်း၊ ပညာရေး ကောင်းမွန်မှသာ တိုင်းပြည်တိုးတက်မည်ဖြစ်သဖြင့် ပညာရေးကောင်းမွန် အောင် ဝိုင်းဝန်းဆောင်ရွက်ရန် လိုကြောင်း။
- လျှပ်စစ်ဓာတ်အားထုတ်လုပ်မှုနှင့် ပတ်သက်၍ ထုတ်လုပ်သည့် လျှပ်စစ်ဓာတ် အားများအားလုံး သုံးစွဲသည်ကို တွေ့ရှိရသဖြင့် လျှပ်စစ်ဓာတ်အားနှင့် ပတ်သက်၍ လိုအပ်ချက်များရှိနေသည်ဟု သုံးသပ်ရကြောင်း၊ လျှပ်စစ်ထုတ်လုပ်မှုလုပ်ငန်း များတွင် နေရောင်ခြည်စွမ်းအင်သုံး လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရေးလုပ်ငန်း များကို ဆောင်ရွက်လျက်ရှိကြောင်း၊ နေပြည်တော်တွင် Smokeless Industries စက်မှုလုပ်ငန်းများ ဆောင်ရွက်နိုင်ရန်အတွက် ပေါင်းလောင်းရေအားလျှပ်စစ် ထုတ်လုပ်ရေးအား အဓိကထားဆောင်ရွက်ရမည်ဖြစ်ကြောင်း၊ အထည်ချုပ် လုပ်ငန်းများနှင့် အခြားလျှပ်စစ်ဓာတ်အား အသုံးပြုလည်ပတ်ရသည့် စက်ရုံ၊ အလုပ်ရုံများနှင့် စိုက်ပျိုးမွေးမြူရေးကိုအခြေခံသည့် တန်ဖိုးမြှင့်ထုတ်ကုန်များ

ထုတ်လုပ်နိုင်ရေးအတွက်လည်း ပြည်တွင်းပြည်ပ ရင်းနှီးမြှုပ်နှံမှုများကို ဖိတ်ခေါ် ဆောင်ရွက်ရန်လိုကြောင်း။

- လုံခြုံရေးနှင့်ပတ်သက်ပြီး ဒေသအလိုက် သတိထားဆောင်ရွက်သွားရန်လို ကြောင်း၊ ပွဲလန့်တုန်း ဖျာခင်းလိုသည့်သဘောများလည်း တွေ့ရကြောင်း၊ ပြည်တွင်းငြိမ်းချမ်းရေးအတွက် လက်နက်ကိုင်အဖွဲ့အစည်းများအားလုံးနှင့် NCA လက်မှတ်ရေးထိုး နိုင်ရေး ကြိုးပမ်းဆောင်ရွက်လျက်ရှိပြီး ၎င်းမှတစ်ဆင့် ထာဝရငြိမ်းချမ်းရေးရရှိရေးအတွက် ဦးတည်ဆောင်ရွက်လျက်ရှိကြောင်း၊ တိုင်းရင်းသားလက်နက်ကိုင် အဖွဲ့အစည်းများအနေဖြင့် တိုင်းပြည်အရေးတွင် အေးအေးချမ်းချမ်းဖြင့် အေးအတူပူအမျှ ဆောင်ရွက်လိုသည့် စိတ်ဓာတ်ထား ရှိပြီး အမြင်ရှင်းရှင်းဖြင့် ကြည့်ရန်လိုကြောင်း။

**၂၀၂၁ ခုနှစ်၊ မတ်လ ၁၉ ရက်နေ့တွင် ကျရောက်သော (၄၇) နှစ်မြောက် မွန်ပြည်နယ် နေ့အခမ်းအနားသို့ ပေးပို့သည့် သဝဏ်လွှာကောက်နုတ်ချက် (၁၉-၃-၂၀၂၁)**

- မွန်ပြည်နယ်သည် ယခင် တနင်္သာရီတိုင်း အမှတ်(၁)အတွင်း ပါဝင်ခဲ့ပါသည်။ ၁၉၇၄ ခုနှစ်၊ ပြည်ထောင်စုဆိုရှယ်လစ်သမ္မတ မြန်မာနိုင်ငံတော်ဖွဲ့စည်းပုံ အခြေခံဥပဒေ ပုဒ်မ-၃၀၊ ပုဒ်မခွဲ(ဂ)တွင် တနင်္သာရီတိုင်း အမှတ်(၁)ကို မွန်ပြည်နယ်ဟု ကမ္ပည်းတင်ရေးသားခဲ့သည့် မတ်လ ၁၉ ရက်နေ့ကို "မွန် ပြည်နယ်နေ့"အဖြစ် သတ်မှတ်ပြီး အထိမ်းအမှတ် အခမ်းအနားများကို နှစ်စဉ် ကျင်းပခဲ့ရာ ယခုဆိုလျှင် (၄၇) နှစ် ပြည့်မြောက်ခဲ့ပြီ ဖြစ်ပါသည်။
- မွန်ပြည်နယ်တွင် မွန်နှင့်ဗမာလူမျိုးများ အများဆုံး နေထိုင်ကြပြီး ကချင်၊ ကယား၊ ကရင်၊ ချင်း၊ ရခိုင်၊ ရှမ်းနှင့် ပအိုဝ်း စသည့် တိုင်းရင်းသားများလည်း အတူတကွ ချစ်ကြည်အေးချမ်းစွာ နေထိုင်လျက်ရှိပါသည်။ မွန်ပြည်နယ်သည် ရာသီဥတု ကောင်းမွန်မှုတ၍ စိမ်းလန်းစိုပြည်သည့် သစ်တော၊ မြစ်ချောင်း၊ ပြန့်ပြူးသာယာ သည့် ပင်လယ်ကမ်းခြေအလှတို့နှင့် ပြည့်စုံသည့် ပြည်နယ်တစ်ခု ဖြစ်ပါသည်။ တိုင်းရင်းသားလူမျိုးများအလိုက် အဖိုးမဖြတ်နိုင်သော ရှေးဟောင်းယဉ်ကျေးမှု အမွေအနှစ်များနှင့် ရိုးရာယဉ်ကျေးမှုအစဉ်အလာကောင်းများ ထွန်းကားရာ ပြည်နယ်တစ်ခုလည်း ဖြစ်ပါသည်။ ဤကဲ့သို့ ရရှိပြီးသော အခြေအနေကောင်း များကို ပိုမိုဖွံ့ဖြိုးတိုးတက်စေပြီး ပြည်နယ်ဖွံ့ဖြိုးတိုးတက်မှုမှသည် နိုင်ငံတော် ဖွံ့ဖြိုးတိုးတက်ရေးအတွက် စစ်မှန်သော ပြည်ထောင်စုစိတ်ဓာတ်ကို အခြေခံ ကာ မွန်ပြည်နယ်အတွင်းရှိ တိုင်းရင်းသား မိဘပြည်သူများအားလုံးက စည်းလုံး ချစ်ခင်စွာဖြင့် အတူတကွ ပူးပေါင်းပါဝင်ဆောင်ရွက်ကြရန် လိုအပ်ပါသည်။
- ပဋိပက္ခများ ဆယ်စုနှစ်များစွာ ဖြစ်ပေါ်ခဲ့သည့်အတွက် မိမိတို့၏ နိုင်ငံရေး၊

စီးပွားရေး၊ လူမှုရေးအဘက်ဘက်တွင် အိမ်နီးချင်းနိုင်ငံများထက် နောက်ကျခဲ့ရပါသည်။ ယနေ့အချိန်အခါကာလတွင် ထိုခါးသီးသော အတွေ့အကြုံများကို သင်ခန်းစာရယူပြီး ပဋိပက္ခများ ချုပ်ငြိမ်းရန်နှင့် ပြည်ထောင်စုကြီးအတွင်းရှိ တိုင်းရင်းသားများအားလုံး အေးအတူပူအမျှ အတူတကွ ယှဉ်တွဲနေထိုင်နိုင်ရန် တစ်နိုင်ငံလုံး ထာဝရငြိမ်းချမ်းရေးအတွက် လက်တွဲဖော်ဆောင်ရမည့် အချိန်အခါ ဖြစ်ပါသည်။

## မြိတ်၊ ကျွန်းစုနှင့် ကိုကိုးကျွန်းတပ်နယ်တို့မှ အရာရှိ၊ စစ်သည် မိသားစုများအား တွေ့ဆုံပြောကြားသည့် အမှာစကားကောက်နုတ်ချက် (၂၀-၃-၂၀၂၁)

- ဒီမိုကရေစီဆိုသည်မှာ အများ၏ဆန္ဒနှင့် ဆောင်ရွက်ခြင်းဖြစ်ပြီး အများ၏ဆန္ဒနှင့် ဆောင်ရွက်သည် ဆိုသော်လည်း အများ၏ဆန္ဒသည် စစ်မှန်ပြီး ရိုးသားသည့် နိုင်ငံရေးဖြစ်ရန်လိုကြောင်း၊ အများဆန္ဒသည် ရိုးသားမှုမရှိပါက ယင်းနိုင်ငံရေးသည် ဒီမိုကရေစီဟု ပြောနိုင်ရန် ခဲယဉ်းကြောင်း၊ တက်လာသည့် အစိုးရများသည် ဒီမိုကရေစီကို မှန်မှန်ကန်ကန်နှင့် အမှန်တကယ် အလုပ်လုပ်နိုင်မည့် အစိုးရဖြစ်ရန် လိုအပ်မည်ဖြစ်ကြောင်း၊ ၂၀၁၀ ပြည့်နှစ် ရွေးကောက်ပွဲတွင် မဲပေးခွင့်ရှိသူ၏ ၇၇ ရာခိုင်နှုန်း မဲပေးခဲ့ကြကြောင်း၊ ၂၀၁၅ ခုနှစ် ရွေးကောက်ပွဲတွင် ၇၀ ရာခိုင်နှုန်းနီးပါး မဲပေးခဲ့ကြသည်ကို တွေ့ရကြောင်း၊ ၂၀၁၆ ခုနှစ်တွင် တက်လာသည့် အစိုးရ၏ လုပ်ဆောင်ချက်များအပေါ် ပြည်သူများအနေဖြင့် အားမလိုအားမရ ဖြစ်လာသည့်အတွက် ရွေးကောက်ပွဲလုပ်ရန်ရှိလာသည့်အခါ ရွေးကောက်ပွဲအပေါ် စိတ်ပျက်ပြီး မဲမပေးချင်သောစိတ်များ ဖြစ်လာကြသည်ကိုတွေ့ရပြီး No Vote လှုပ်ရှားမှုများ ဖြစ်လာသည်ကို တွေ့ရှိကြရမည် ဖြစ်ကြောင်း။
- ဒီမိုကရေစီစနစ်တွင် ရွေးကောက်ပွဲပြုလုပ်ခြင်း၊ ဆန္ဒမဲပေးခြင်းသည် အနှစ်သာရပင် ဖြစ်သောကြောင့် မိမိအနေဖြင့် ၂၀၂၀ ပြည့်နှစ် ရွေးကောက်ပွဲ၌ ရောက်သည့် နေရာတိုင်းတွင် နှစ်သက်ရာကို မဲပေးရန်၊ တိုင်းပြည်နှင့် လူမျိုးအကျိုး သယ်ပိုးနိုင်မည့်သူ၊ ဒေသအကျိုးကို ဖော်ဆောင်နိုင်မည့်သူများကို ရွေးချယ်မဲပေးကြရန် တိုက်တွန်းခဲ့ကြောင်း၊ မဲပေးသည့်ကာလ၊ မဲပေးသည့်အချိန်တွင် မဲရုံများနှင့် ပတ်သက်၍ ကြိုတင်မဲ ပြဿနာများရှိကြောင်း၊ ကြိုတင်မဲများနှင့် စပ်လျဉ်း၍ အမိန့်၊ ညွှန်ကြားချက်များနှင့် ပြင်ဆင်ချက်များပေး၍ မဲပေးခိုင်းသည်ကို တွေ့ရကြောင်း၊ ဥပဒေကိုကျော်လွန်၍ မဖြစ်ကြောင်း၊ ရွေးကောက်ပွဲဥပဒေကို ကျော်လွန်သည့် အမိန့်များကို ထုတ်ပြန်မှုမပြုသင့်ကြောင်း၊ သို့သော် အဆိုပါအချက်များကို မျက်ကွယ်ပြု၍ ကိုဗစ်ဖြစ်သည်ကို အကြောင်းပြကာ ထုတ်ပြန်ထားသည့် အမိန့်များကို တွေ့ရကြောင်း။

- ၂၀၂၀ ပြည့်နှစ် ရွေးကောက်ပွဲကျင်းပပြုလုပ်ချိန်သည် COVID-19 ရောဂါဖြစ်ပွား နေချိန်ဖြစ်ပြီး Social Distancing နှင့်အညီ မဲပေးမှုများ ဆောင်ရွက်ခဲ့ရကြောင်း၊ မဲပေးမှုမှာ ၇၁ ရာခိုင်နှုန်းဖြစ်သည်ကိုတွေ့ရှိရကြောင်း၊ မဲစာရင်းရလဒ်များကို စစ်ဆေးခဲ့ရာတွင်လည်း ကွာဟမှုများစွာတွေ့ရှိခဲ့ရပြီး တွေ့ရှိချက်များကိုလည်း ထုတ်ပြန်ကြေညာခဲ့ကြောင်း၊ ထိုသို့ မဲစာရင်းလွဲမှားနေမှုများကို ပြန်လည်စိစစ် ပေးရန် အကြိမ်ကြိမ်ပြောဆိုခဲ့ကြောင်း၊ မြိတ်မြို့နယ်တွင် မဲမသမာမှုပေါင်း ၅ သောင်းကျော်နှင့် ကျွန်းစုမြို့နယ်တွင် မဲမသမာမှုပေါင်း ၃ သောင်းကျော်ရှိပြီး တစ်နိုင်ငံလုံးအတိုင်းအတာဖြင့်ဆိုပါက ၁၀ သန်းကျော် ရှိခဲ့သည်ကို တွေ့ရှိရ ကြောင်း၊ ရိုးရိုးသားသားဖြင့် လုပ်ဆောင်လျှင် မဲနိုင်မည်ဖြစ်သော်လည်း ရိုးရိုး ဖြေပါက အောင်မြင်မည့်စာမေးပွဲကို မတန်တဆအမှတ်လိုချင်သဖြင့် မသမာ သည့်နည်းဖြင့် လုပ်ဆောင် သည်နှင့် တူနေကြောင်း၊ ထိုသို့ မဲစာရင်းမှားယွင်း နေမှုများကို ဖြေရှင်းဆောင်ရွက်ပေးခြင်းမရှိသည့်အပြင် တတိယအကြိမ် လွှတ်တော်ခေါ်ယူ၍ အစိုးရအသစ်ဖွဲ့ရန် အတင်းအဓမ္မ ကြံစည်ကြိုးပမ်းလာမှု များကြောင့် တပ်မတော်အနေဖြင့် ဖွဲ့စည်းပုံအခြေခံဥပဒေ (၂၀၀၈ ခုနှစ်)ပါ ပြဋ္ဌာန်းချက်များနှင့်အညီ ၂၀၂၁ ခုနှစ်၊ ဖေဖော်ဝါရီလ ၁ ရက်မှစ၍ နိုင်ငံတော်၏ တာဝန်များအား ပုဒ်မ ၄၁၇ နှင့် ၄၁၈ တို့အရ ဆောင်ရွက်ခဲ့ပြီး ပုဒ်မ ၄၁၉ အရ နိုင်ငံတော်စီမံအုပ်ချုပ်ရေးကောင်စီကို ဖွဲ့စည်းဆောင်ရွက်ခဲ့ရခြင်း ဖြစ်ကြောင်း။

**ကျိုင်းတုံတပ်နယ်မှ အရာရှိ၊ စစ်သည်၊ မိသားစုများအား တွေ့ဆုံပြောကြားသည့် အမှာစကားကောက်နုတ်ချက် (၂၉-၃-၂၀၂၁)**

- လက်ရှိအချိန်တွင် မဲစာရင်းများစစ်ဆေးခြင်းကို အသစ်ဖွဲ့စည်းထားရှိသည့် ရွေးကောက်ပွဲကော်မရှင်က စစ်ဆေးဆောင်ရွက်လျက်ရှိကြောင်း၊ ယခင် ရွေးကောက်ပွဲကော်မရှင်မှ ထိပ်ပိုင်းတာဝန်ရှိသူများကို စစ်ဆေးမေးမြန်းခဲ့ရာ တွင်လည်း ၎င်းတို့ကော်မရှင်အနေဖြင့် လွတ်လပ်မှုမရှိဘဲ သမ္မတ၏ ထိန်းချုပ်မှု၊ ပြောဆိုမှုများအတိုင်းသာ ဆောင်ရွက်ခဲ့ရခြင်းဖြစ်သည်ဟု ပြောဆိုခဲ့သည် ကို သတင်းစာရှင်းလင်းပွဲများ၌လည်း ထည့်သွင်းရှင်းလင်းခဲ့ပြီး ဖြစ်ကြောင်း၊ လက်ရှိအချိန်တွင် ရွေးကောက်ပွဲကော်မရှင်အနေဖြင့် မြေပြင်စစ်ဆေးတွေ့ ရှိချက်များကို မြို့နယ်တစ်မြို့နယ်ချင်းအလိုက် နေ့စဉ်အသေးစိတ် ထုတ်ပြန် ပေးလျက်ရှိပြီး ယခင်တပ်မတော်မှ ထုတ်ပြန်ခဲ့သည့် စစ်ဆေးတွေ့ရှိချက် ထက်ပင် မဲမသမာမှုများ ပိုမိုများပြားနေသည်ကို တွေ့ရှိရကြောင်း။
- တပ်မတော်မှ စတင်တာဝန်ယူသည့် ပထမရက်သတ္တပတ်အတွင်း တည်ငြိမ် အေးချမ်းခဲ့သော်လည်း ဒုတိယအပတ်မှစတင်၍ NLD ပါတီဝင်များနှင့် ထောက်ခံသူများ၏ သွေးထိုးလှုံ့ဆော်မှုများကြောင့် ဆူပူမှု၊ ဆန္ဒပြမှုများ

ဖြစ်ပေါ်ခဲ့ကြောင်း၊ ယခုအခါ ဆူပူဆန္ဒပြသည့် အဆင့်မှ မင်းမဲ့စရိုက်ဆန်သည့် ဥပဒေချိုးဖောက်မှုအဆင့်များမှတစ်ဆင့် ပွိုင့် ၂၂ သေနတ်၊ တူမီးသေနတ်၊ လေသေနတ်၊ လက်လုပ်သေနတ်၊ လက်လုပ်လက်ပစ်ဗုံး များ၊ မီးပုလင်း၊ မီးကွင်းကဲ့သို့သော အဖျက်အမှောင့် လက်နက်များကို ကိုင်ဆွဲ၍ နိုင်ငံတော်အုပ်ချုပ်ရေး အဆောက်အဦများ၊ ရဲစခန်းများ၊ တရားရေးဆိုင်ရာ အဆောက်အဦများအပြင် ရိုးသားအေးချမ်းစွာ နေထိုင်လိုသည့် ပြည်သူတို့၏ နေအိမ်အဆောက်အဦများ၊ စက်ရုံ၊ အလုပ်ရုံများအား မီးရှို့ဖျက်ဆီးခြင်းများ၊ ဝင်ရောက်စီးနင်းရန် ကြိုးပမ်းအားထုတ်မှုများ စသည့် လက်နက်ကိုင်အကြမ်းဖက်သည့်အဆင့်သို့ ကူးစက်အသွင်ပြောင်းလာခဲ့သည်ကို တွေ့ရှိလာရကြောင်း။

- တပ်မတော်သည် တိုင်းပြည်အကျိုးအတွက် ကြိုးပမ်းဆောင်ရွက်နေချိန်တွင် ပြည်သူက အားကိုးရသည့် တိုင်းပြည်ကအားထားရသည့် တပ်မတော်ဖြစ်စေရေး အားလုံးကြိုးပမ်းဆောင်ရွက်ကြရမည်ဖြစ်ပြီး ပြည်သူ့အကျိုးကို ဖော်ဆောင်ပေးရန်၊ တိုင်းပြည်ကို ကာကွယ်နိုင်ရန် အမြဲအသင့်ပြင် ဆောင်ရွက်ကြရမည်ဖြစ်ကြောင်း၊ တပ်မတော်သားများနှင့် မိသားစုဝင်များ၏ တပ်မတော်အပေါ် တိုင်းပြည်အပေါ်ထားရှိသည့်ကောင်းမွန်သည့်စိတ်ရင်း၊ စိတ်ဓာတ်များအတွက်လည်း လေးစားချီးကျူးပါကြောင်း၊ တပ်ရင်းတပ်ဖွဲ့များအားလုံး အနေဖြင့် စစ်သည်တစ်ဦးချင်းမှစ၍ အရည်အချင်းရှိအောင်၊ တိုးတက်အောင် တည်ဆောက်ပြီး မိမိတို့၏ လုပ်ဆောင်ချက်အားလုံးသည် တိုင်းပြည်အတွက် ဖြစ်ရမည်ဟူသည့်စိတ်ဖြင့် ကြိုးပမ်းဆောင်ရွက်ကြစေလိုကြောင်း။

## ၂၀၂၁ ခုနှစ်၊ မတ်လ ၂ ရက်နေ့တွင် ကျရောက်သော တောင်သူလယ်သမားနေ့ အခမ်းအနားသို့ ပေးပို့သည့် သဝဏ်လွှာကောက်နုတ်ချက် (၂-၃-၂၀၂၁)

- နိုင်ငံ၏ထမင်းရှင်၊ ကျေးဇူးရှင်ကြီးများဖြစ်ကြသော တောင်သူလယ်သမားကြီးများအား နိုင်ငံတော်အစိုးရအနေဖြင့် ပြဋ္ဌာန်းထားသည့် တောင်သူလယ်သမားအခွင့်အရေးကာကွယ်ရေးနှင့် အကျိုးစီးပွားမြှင့်တင်ရေးဥပဒေနှင့်အညီ ပံ့ပိုးကူညီထောက်ပံ့မှုများကို ထိရောက်အောင် ဆောင်ရွက်ပေးလျက် ရှိပါသည်။ သဘာဝဘေးအန္တရာယ်ကြောင့် ထိခိုက်ပျက်စီးသည့် စိုက်ပျိုးသီးနှံများအတွက် တောင်သူလယ်သမားများအား အရေးပေါ်ရန်ပုံငွေမှ ထောက်ပံ့ကြေးများကို ကျပ် ၂၃ ဒသမ ၆၈ ဘီလီယံထုတ်ပေးခဲ့ပြီး ဖြစ်ပါသည်။ ထို့အပြင် တောင်သူလယ်သမားများ ဈေးကွက်တွင် မျှတသည့်ဈေးနှုန်းရရှိနိုင်ရန် အခြေခံရည်ညွှန်းစပါးဈေးနှုန်း ထုတ်ပြန်သတ်မှတ်ခြင်းကို ၂၀၁၇-၂၀၁၈ ခုနှစ်မှ စတင်ဆောင်ရွက်ပေးခဲ့ပါသည်။ ယင်းစနစ်ကို ပိုမိုထိရောက်ကျယ်ပြန့်စွာ တိုးချဲ့ ဆောင်ရွက်ရေး

အပြင် တစ်ဖက်တွင်လည်း တောင်သူလယ်သမားများအတွက် သွင်းအားစုရရှိရေးနှင့် ဈေးကွက်သေချာစေမည့် အကျိုးတူကန်ထရိုက်လယ်ယာစနစ် ကျယ်ကျယ်ပြန့်ပြန့် ပေါ်ပေါက်လာနိုင်ရေးအတွက် တွန်းအားပေးလျက်ရှိပြီး ယင်းစနစ်အား တစ်ပြေးညီ ကျင့်သုံးနိုင်မည့် လုပ်ထုံးလုပ်နည်းကို ချမှတ်ဆောင်ရွက်ပေးသွားမည် ဖြစ်ပါသည်။

- မြန်မာနိုင်ငံတစ်ဝန်းတွင် လက်ရှိအားဖြင့် အသားတင်စိုက်ပျိုးမြေဧက (၂၉ ဒသမ ၅၉)သန်း ဖြစ်သော်လည်း ယင်းမြေပေါ်တွင် တောင်သူလယ်သမားကြီးများက ရာသီအလိုက် သီးထပ်၊ သီးညှပ်များလည်း စိုက်ပျိုးလျက်ရှိသဖြင့် နှစ်စဉ်သီးနှံစိုက်ပျိုးဧက စုစုပေါင်းမှာ ဧက ၄၈ သန်းကျော်ဖြစ်ပါသည်။ တိုးတက်လာသော နိုင်ငံ့လူဦးရေ၏ နေ့စဉ်စားနပ်ရိက္ခာ ဖူလုံရန်အတွက် တောင်သူလယ်သမားကြီးများက စိုက်ပျိုးမြေများကို စနစ်တကျပြုပြင်ပြီး ရာသီအလိုက် အရည်အသွေးကောင်း၊ အထွက်နှုန်းကောင်း သီးနှံမျိုးများကို စိုက်ပျိုးခြင်းဖြင့် သီးနှံအထွက်နှုန်းမြင့်မားလာစေမည် ဖြစ်ပါသည်။ သီးနှံစိုက်ပျိုးထုတ်လုပ်မှုစွမ်းအား တိုးတက်ရေးတွင် အဓိကလိုအပ်ချက်ဖြစ်သည့် စိုက်ပျိုးရေရရှိရေးအတွက် နှစ်စဉ်မိုးစပါး၊ နွေစပါးနှင့် အခြားသီးနှံဧက (၂၄) သိန်းခန့်ကို တည်ဆောက်ပြီး ဆည်တမံနှင့် အခြားရေရရှိရေးလုပ်ငန်းများမှ စိုက်ပျိုးရေပေးဝေမှု ဆောင်ရွက်လျက်ရှိသကဲ့သို့ သဘာဝဘေးအန္တရာယ်ကြောင့် ရေကြီးနစ်မြုပ်မှုလျော့ပါးရေးအတွက် နိုင်ငံတစ်ဝန်းတွင် ချောင်းကော၊ မြောင်းကောနှင့် ရေနုတ်မြောင်းများတူးဖော်ခြင်းလုပ်ငန်းပေါင်း (၄၅၁၉) ခုကို ဆောင်ရွက်ပေးနိုင်ခြင်းဖြင့် လယ်မြေဧက (၃) သန်းကို ကာကွယ်ပေးနိုင်ခဲ့ပါသည်။
- သိုလှောင်ဖြန့်ဖြူးပေးလျက်ရှိသော ရေများ လေလွင့်ဆုံးရှုံးမှုမဖြစ်စေရေးအတွက် ဆည်ရေပေးမြောင်းများ ပြုပြင်တည်ဆောက်မှုအပြင် ရေပေးဝေမှုစနစ်များ ပိုမိုကောင်းမွန်ရန် လုပ်ဆောင်လျက် ရှိပါသည်။ ထို့အပြင် ရေကို အလေအလွင့်လျော့ပါးပြီး ထိရောက်စွာ ခွဲဝေသုံးစွဲနိုင်ရန် တောင်သူလယ်သမားများကိုယ်တိုင် ပါဝင်စီမံဆောင်ရွက်နိုင်သော ရေအသုံးချသူ အစုအဖွဲ့များ ဖွဲ့စည်းဆောင်ရွက်စေလျက်ရှိရာ ပြည်နယ်/တိုင်းဒေသကြီး (၁၃) ခုတွင် အဖွဲ့ပေါင်း (၈၁၈၈) ခုကို တောင်သူလယ်သမား (၂၃၈၇၅၀) ဦးဖြင့် ဖွဲ့စည်းထားပြီး ဖြစ်ပါသည်။

# နိုင်ငံတော်၏ စီးပွားရေးမူဝါဒ

## နိုင်ငံတော်၏ စီးပွားရေးမူဝါဒမျှော်မှန်းချက်

နိုင်ငံတော်၏ စီးပွားရေးမူဝါဒသည် ပြည်သူကို ဗဟိုပြု၍ အားလုံးပါဝင်နိုင်သော အစဉ်အဆက်မပြတ် တိုးတက်မှုရရှိစေရန် ရည်ရွယ်ပါသည်။ အမျိုးသားပြန်လည်သင့်မြတ်ရေးကို အထောက်အကူရရှိစေရန် ဦးတည်၍ သဘာဝသယံဇာတအရင်းအမြစ်များကို ရေရှည်ထိန်းသိမ်းလျက် တိုင်းဒေသကြီးနှင့် ပြည်နယ်များအကြား မျှတမှန်ကန်စွာ ခွဲဝေအသုံးချနိုင်မည့် စီးပွားရေးမူဘောင် ချမှတ်ဆောင်ရွက်ရန် မျှော်မှန်းပါသည်။

## နိုင်ငံတော်၏ ရည်မှန်းချက်များ

၁။ အမျိုးသားပြန်လည်သင့်မြတ်ရေးကို ဦးတည်ပြီး စည်းလုံးညီညွတ်သော ဖက်ဒရယ်ဒီမိုကရက်တစ် ပြည်ထောင်စုကြီး ဖြစ်တည်လာစေရေးကို အထောက်အပံ့ဖြစ်စေသည့် မူဝါဒအဖြစ် ကျင့်သုံးရန်၊

၂။ တိုင်းဒေသကြီးနှင့် ပြည်နယ်များအကြား ဘက်ညီမျှတစွာ ဖွံ့ဖြိုးတိုးတက်လာစေသည့် စီးပွားရေးအခြေအနေကောင်းများ ရရှိရေးဆောင်ရွက်ရန်၊

၃။ နိုင်ငံတော်အတွက် အဘက်ဘက်မှ စွမ်းရည်ပြည့်ဝသော လူငယ်မျိုးဆက်သစ်များ ပေါ်ပေါက်လာစေရေးအတွက် အခွင့်အလမ်းများ ဖန်တီးပေးနိုင်သော စီးပွားရေးမူဝါဒအဖြစ် ကျင့်သုံးရန်၊

၄။ နိုင်ငံသားအားလုံး ပူးပေါင်းပါဝင်နိုင်ပြီး တီထွင်ဆန်းသစ်မှုနှင့် ကြိုးပမ်းအားထုတ်မှုများဖြင့် တိုးတက်မှုရလဒ်ကောင်းများကို အစဉ်အဆက်ရယူထိန်းသိမ်းနိုင်မည့် စီးပွားရေးစနစ်တစ်ခုအဖြစ် ထူထောင်ရန်။

## နိုင်ငံတော်၏ စီးပွားရေးမူဝါဒများ

၁။ ပွင့်လင်းမြင်သာပြီး ကောင်းမွန်တောင့်တင်းသည့် ပြည်သူ့ဘဏ္ဍာရေး စီမံခန့်ခွဲမှုစနစ်ဖြင့် ဘဏ္ဍာရေးအရင်းအမြစ်များ တိုးတက်ပွားများလာအောင် ဆောင်ရွက်ရန်၊

၂။ နိုင်ငံပိုင်စီးပွားရေးလုပ်ငန်းများ ပိုမိုအောင်မြင်စေရန် ဆောင်ရွက်ခြင်း၊ ပြုပြင်ပြောင်းလဲ လုပ်ကိုင်နိုင်ခြေရှိသောလုပ်ငန်းများကို ပုဂ္ဂလိကပိုင်အဖြစ် ပြောင်းလဲလုပ်ဆောင်ခြင်းတို့အပြင် အလုပ်အကိုင်ရရှိရေးနှင့် စီးပွားရေးတိုးတက်မှုကို အထောက်အကူပြုသည့် အသေးစားနှင့် အလတ်စားစီးပွားရေးလုပ်ငန်းများကို ပံ့ပိုးကူညီပေးရန်၊

၃။ ခေတ်မီဖွံ့ဖြိုးသော စီးပွားရေးကို ဖြစ်ထွန်းစေနိုင်သည့် လူ့အရင်းအမြစ်များ မွေးထုတ်ပေးနိုင်ရန်နှင့် ပညာရပ်ပိုင်းဆိုင်ရာ အသက်မွေးဝမ်းကျောင်းပညာရပ်များကို ဖွံ့ဖြိုးတိုးတက်အောင် ဆောင်ရွက်ရန်၊

၄။ လျှပ်စစ်ဓာတ်အား၊ လမ်းများ၊ ဆိပ်ကမ်းများ စသည့် အခြေခံစီးပွားရေး အဆောက်အအုံများ လျင်မြန်စွာ တိုးတက်လာစေရေးကို ဦးစားပေးဆောင်ရွက်ရန်နှင့် Data ID Card System၊ Digital Government Strategy နှင့် e-Government System တို့ကို ထူထောင်သွားရန်၊

၅။ ပြည်တွင်းနေ နိုင်ငံသားများနှင့် နိုင်ငံရပ်ခြားမှ ပြန်လည်ရောက်ရှိလာသော မြန်မာနိုင်ငံသားများ အားလုံးအတွက် အလုပ်အကိုင်အခွင့်အလမ်းများ ဖော်ထုတ်ပေးရန်နှင့် အလုပ်အကိုင်အခွင့်အလမ်း မြင့်မားသော စီးပွားရေးလုပ်ငန်းများကို ကာလတိုအတွင်း ပိုမိုဦးစားပေးဆောင်ရွက်ရန်၊

၆။ ဘက်စုံဖွံ့ဖြိုးတိုးတက်ရေး၊ စားနပ်ရိက္ခာဖူလုံစေရေးနှင့် ပို့ကုန်မြှင့်တင်နိုင်ရေးတို့အတွက် လယ်ယာကဏ္ဍ၊ မွေးမြူရေးကဏ္ဍနှင့် စက်မှုကဏ္ဍများ ဘက်ညီစွာ တိုးတက်လာစေရန်နှင့် လယ်ယာစက်မှုကဏ္ဍ ချိန်ခွင်လျှာညီသည့် စီးပွားရေးပုံစံဖော်ထုတ်ရန်၊

၇။ ဈေးကွက်စီးပွားရေးစနစ်နှင့်အညီ ပုဂ္ဂလိကကဏ္ဍ တိုးတက်ရေးအတွက် နိုင်ငံသားတိုင်း မိမိတို့လုပ်ကိုင်လိုသည့် စီးပွားရေးလုပ်ငန်းများကို လွတ်လပ်စွာ လုပ်ကိုင်ခွင့်ရရှိစေရန်နှင့် ပြည်ပရင်းနှီးမြှုပ်နှံမှုများ တိုးမြှင့်ရန်အတွက် မူဝါဒများ သီးခြားရေးဆွဲဆောင်ရွက်ရန်၊ မူပိုင်ခွင့်များနှင့် တရားဥပဒေစိုးမိုးမှုရှိစေရေးအတွက် တိုးမြှင့်ဆောင်ရွက်ရန်၊

၈။ အိမ်ထောင်စုများ၊ တောင်သူလယ်သမားများနှင့် စီးပွားရေးလုပ်ငန်းများကို ရေရှည်ဖွံ့ဖြိုးတိုးတက်စေရေး အထောက်အကူပြုနိုင်မည့် ငွေရေးကြေးရေးစနစ်ဖြင့် ဘဏ္ဍာရေးတည်ငြိမ်မှုရရှိလာစေရေး ဆောင်ရွက်ရန်၊

၉။ သဘာဝပတ်ဝန်းကျင်များကို ရေရှည်ထိန်းသိမ်းနိုင်ရန်အတွက် လိုက်လျော

ညီထွေဖြစ်စေမည့် မြို့ပြများ တည်ထောင်ရန်၊ ပြည်သူ့ဝန်ဆောင်မှုလုပ်ငန်းများ အဆင့်မြှင့်တင်ရန်တို့အပြင် အများပြည်သူနှင့် သက်ဆိုင်သည့်နေရာများ တိုးချဲ့ဖော်ထုတ်ရန်နှင့် ယဉ်ကျေးမှုအမွေအနှစ်များကို ပိုမိုစောင့်ရှောက် ထိန်းသိမ်းရေးတို့အတွက် ဆောင်ရွက်ရန်၊

၁၀။ နိုင်ငံတော်၏ ဝင်ငွေတိုးတက်ရရှိရန် အကျိုးသက်ရောက်မှုရှိပြီး မျှတသော အခွန် စနစ်ထူထောင်၍ ပြည်သူများ၏ အခွင့်အရေးနှင့် ပစ္စည်းဥစ္စာပိုင်ဆိုင်ခွင့်ကို ဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ ပြဋ္ဌာန်းလျက် အကာအကွယ်ပေးရန်၊

၁၁။ တီထွင်ဖန်တီးမှုစွမ်းရည်များနှင့် အဆင့်မြင့်နည်းပညာတိုးတက်မှုများကို အားထုတ် ကြိုးပမ်းဖြစ်ပေါ်စေနိုင်သည့် အသိဉာဏ်ပစ္စည်းပိုင်ဆိုင်မှုအတွက် အထောက်အပံ့ ဖြစ်စေသောနည်းစနစ်များ၊ လုပ်ထုံးလုပ်နည်းများ ပြဋ္ဌာန်း ဆောင်ရွက်ရန်၊

၁၂။ စီးပွားရေးလုပ်ငန်းများကို ဆောင်ရွက်ရာတွင် အာဆီယံဒေသတွင်းသာမက အခြားဒေသများအတွင်း၌လည်း တိုးတက်ပြောင်းလဲလာနိုင်ဖွယ်ရှိသော အခြေအနေများကို ဖော်ထုတ်၍ မိမိတို့၏ စီးပွားရေးလုပ်ငန်းများကို အမြော်အမြင်ကောင်းများဖြင့် အခြေတည်ထူထောင်ရန်။

## ၂၀၁၀ ပြည့်နှစ် ပါတီစုံဒီမိုကရေစီအထွေထွေရွေးကောက်ပွဲတွင် ပါဝင်ယှဉ်ပြိုင်သည့် နိုင်ငံရေးပါတီများနှင့် ရွေးချယ်ခံရမှု အခြေအနေ

| စဉ် | ပါတီအမည် | ရွေးချယ်ခံရသည့်ဦးရေ | | | | |
|---|---|---|---|---|---|---|
| | | ပြည်သူ့လွှတ်တော် | အမျိုးသားလွှတ်တော် | ပြည်နယ်/တိုင်းဒေသကြီးလွှတ်တော် | တိုင်းရင်းသားလွှတ်တော် | စုစုပေါင်း |
| ၁။ | မြို(ခေါ်)ခမီအမျိုးသားညီညွတ်ရေးအဖွဲ့ | - | - | - | - | - |
| ၂။ | တိုင်းရင်းသားစည်းလုံးညီညွတ်ရေးပါတီ | ၁၂ | ၅ | ၄၅ | ၂ | ၆၄ |
| ၃။ | လားဟူအမျိုးသားဖွံ့ဖြိုးတိုးတက်ရေးပါတီ | - | - | ၁ | - | ၁ |
| ၄။ | ကိုးကန့်ဒီမိုကရေစီနှင့် ညီညွတ်ရေးပါတီ | - | - | - | - | - |
| ၅။ | ပအိုဝ်းအမျိုးသားအဖွဲ့ချုပ်(PNO) | ၃ | ၁ | ၆ | - | ၁၀ |
| ၆။ | ဒီမိုကရက်တစ်ပါတီ(မြန်မာ) | - | - | ၃ | - | ၃ |
| ၇။ | ကယန်းအမျိုးသားပါတီ | - | - | ၁ | ၁ | ၂ |
| ၈။ | မြန်မာနိုင်ငံ ရခိုင်ပြည်နယ် အမျိုးသား အင်အားစုပါတီ | - | - | - | - | - |
| ၉။ | ကရင်ပြည်သူ့ပါတီ | ၁ | ၁ | ၂ | ၂ | ၆ |
| ၁၀။ | “ဝ”အမျိုးသားစည်းလုံးညီညွတ်ရေးပါတီ | - | - | - | - | - |

| စဉ် | ပါတီအမည် | ရွေးချယ်ခံရသည့်ဦးရေ | | | | |
|---|---|---|---|---|---|---|
| | | ပြည်သူ့လွှတ်တော် | အမျိုးသားလွှတ်တော် | ပြည်နယ်/တိုင်းဒေသကြီးလွှတ်တော် | တိုင်းရင်းသားလွှတ်တော် | စုစုပေါင်း |
| ၁၁။ | တအာင်း(ပလောင်)အမျိုးသားပါတီ | ၁ | ၁ | ၄ | - | ၆ |
| ၁၂။ | မွန်ဒေသလုံးဆိုင်ရာ ဒီမိုကရေစီပါတီ | ၃ | ၄ | ၈ | ၁ | ၁၆ |
| ၁၃။ | ဒီမိုကရေစီနှင့် ငြိမ်းချမ်းရေးပါတီ | - | - | - | - | - |
| ၁၄။ | ရှမ်းတိုင်းရင်းသားများ ဒီမိုကရက်တစ်ပါတီ | ၁၈ | ၃ | ၃၄ | ၂ | ၅၇ |
| ၁၅။ | ညီညွတ်သောဒီမိုကရက်တစ်ပါတီ (UDထ) | - | - | - | - | - |
| ၁၆။ | ၈၈ မျိုးဆက်ကျောင်းသားလူငယ်များ (ပြည်ထောင်စုမြန်မာနိုင်ငံ) | - | - | ၁ | - | ၁ |
| ၁၇။ | ပြည်ထောင်စုမြန်မာနိုင်ငံ အမျိုးသားနိုင်ငံရေးအဖွဲ့ချုပ် | - | - | - | - | - |
| ၁၈။ | အမျိုးသားနိုင်ငံရေးမဟာမိတ်များအဖွဲ့ချုပ် | - | - | - | - | - |
| ၁၉။ | ချင်းအမျိုးသားပါတီ | ၂ | ၂ | ၅ | - | ၉ |
| ၂၀။ | ဝံသာနု NLD (ပြည်ထောင်စုမြန်မာနိုင်ငံ) | - | - | - | - | - |
| ၂၁။ | ခေတ်သစ်ပြည်သူ့ပါတီ | - | - | - | - | - |

| စဉ် | ပါတီအမည် | ရွေးချယ်ခံရသည့်ဦးရေ | | | | |
|---|---|---|---|---|---|---|
| | | ပြည်သူ့လွှတ်တော် | အမျိုးသားလွှတ်တော် | ပြည်နယ်/တိုင်းဒေသကြီးလွှတ်တော် | တိုင်းရင်းသားလွှတ်တော် | စုစုပေါင်း |
| ၂၂။ | ပြည်ထောင်စုဒီမိုကရေစီပါတီ | - | - | - | - | - |
| ၂၃။ | မတူကွဲပြားခြင်းနှင့် ငြိမ်းချမ်းရေးပါတီ | - | - | - | - | |
| ၂၄။ | ချင်းတိုးတက်ရေးပါတီ | ၂ | ၄ | ၅ | ၁ | ၁၂ |
| ၂၅။ | အင်းအမျိုးသားဖွံ့ဖြိုးတိုးတက်ရေးပါတီ | ၁ | - | ၂ | ၁ | ၄ |
| ၂၆။ | ရခိုင်တိုင်းရင်းသားများ တိုးတက်ရေးပါတီ | ၉ | ၇ | ၁၈ | ၁ | ၃၅ |
| ၂၇။ | "၁"ဒီမိုကရက်တစ်ပါတီ | ၂ | ၁ | ၃ | - | ၆ |
| ၂၈။ | ဖလုံ-စဝေါ်ဒီမိုကရက်တစ်ပါတီ | ၂ | ၃ | ၄ | - | ၉ |
| ၂၉။ | အမျိုးသားဖွံ့ဖြိုးတိုးတက်ရေးဒီမိုကရက်တစ်ပါတီ | - | - | ၂ | - | ၂ |
| ၃၀။ | ပြည်ထောင်စုကြံ့ခိုင်ရေးနှင့် ဖွံ့ဖြိုးရေးပါတီ | ၂၅၉ | ၁၂၉ | ၄၇၇ | ၁၇ | ၈၈၂ |
| ၃၁။ | တိုင်းရင်းသားလူမျိုးစုများ ဖွံ့ဖြိုးရေးပါတီ | - | - | ၁ | - | ၁ |
| ၃၂။ | ကမန်အမျိုးသားတိုးတက်ရေးပါတီ | - | - | - | - | - |
| ၃၃။ | ခမီအမျိုးသားဖွံ့ဖြိုးတိုးတက်ရေးပါတီ | - | - | - | - | - |

| စဉ် | ပါတီအမည် | ရွေးချယ်ခံရသည့်ဦးရေ | | | | |
|---|---|---|---|---|---|---|
| | | ပြည်သူ့လွှတ်တော် | အမျိုးသားလွှတ်တော် | ပြည်နယ်/တိုင်းဒေသကြီးလွှတ်တော် | တိုင်းရင်းသားလွှတ်တော် | စုစုပေါင်း |
| ၃၄။ | အမျိုးသားဒီမိုကရေစီအင်အားစုပါတီ | ၈ | ၄ | ၄ | – | ၁၆ |
| ၃၅။ | စည်းလုံးညီညွတ်ရေးနှင့် ဒီမိုကရေစီပါတီ ကချင်ပြည်နယ်(စဒက) | ၁ | ၁ | ၂ | – | ၄ |
| ၃၆။ | ကရင်ပြည်နယ်ဒီမိုကရေစီနှင့် ဖွံ့ဖြိုးတိုးတက်ရေးပါတီ | – | ၁ | ၁ | – | ၂ |
| ၃၇။ | အမျိုးသားဖွံ့ဖြိုးတိုးတက်ရေးနှင့် ငြိမ်းချမ်းရေးပါတီ | – | – | – | – | – |
| ၃၈။ | တစ်သီးပုဂ္ဂလ | ၁ | ၁ | ၃ | ၁ | ၆ |
| | စုစုပေါင်း | ၃၂၅ | ၁၆၈ | ၆၃၂ | ၂၉ | ၁၁၅၄ |

## ၂၀၁၅ ပါတီစုံဒီမိုကရေစီအထွေထွေရွေးကောက်ပွဲတွင် ပါဝင်ယှဉ်ပြိုင်သည့် နိုင်ငံရေးပါတီနှင့် ရွေးချယ်ခံရမှုအခြေအနေ

| စဉ် | ပါတီအမည် | ပြည်သူ့ | အမျိုးသား | ပြည်နယ်/တိုင်း | တိုင်းရင်းသား | ပေါင်း | ရာခိုင်နှုန်း |
|---|---|---|---|---|---|---|---|
| ၁။ | အမျိုးသားဒီမိုကရေစီအဖွဲ့ချုပ်ပါတီ | ၂၅၅ | ၁၃၅ | ၄၇၅ | ၂၁ | ၈၈၆ | ၇၇.၀၄ |
| ၂။ | ပြည်ထောင်စုကြံ့ခိုင်ရေးနှင့်ဖွံ့ဖြိုးရေးပါတီ | ၃၀ | ၁၁ | ၇၄ | ၂ | ၁၁၇ | ၁၀.၁၇ |
| ၃။ | ရခိုင်အမျိုးသားပါတီ | ၁၂ | ၁၀ | ၂၂ | ၁ | ၄၅ | ၃.၉၁ |
| ၄။ | ရှမ်းတိုင်းရင်းသားဒီမိုကရေစီအဖွဲ့ချုပ်ပါတီ | ၁၂ | ၃ | ၂၅ | - | ၄၀ | ၃.၄၈ |
| ၅။ | တအာင်း(ပလောင်)အမျိုးသားပါတီ | ၃ | ၂ | ၇ | - | ၁၂ | ၁.၀၄ |
| ၆။ | ပအိုဝ်းအမျိုးသားအဖွဲ့ချုပ်(PNO)ပါတီ | ၃ | ၁ | ၆ | - | ၁၀ | ၀.၈၇ |
| ၇။ | ဇိုမီးဒီမိုကရေစီအဖွဲ့ချုပ်ပါတီ | ၂ | ၂ | ၂ | ၁ | ၆ | ၀.၅၂ |
| ၈။ | တစ်သီးပုဂ္ဂလ | ၁ | ၂ | ၁ | ၁ | ၅ | ၀.၄၃ |
| ၉။ | လီဆူးအမျိုးသားဖွံ့ဖြိုးတိုးတက်ရေးပါတီ(ဒူးလေးပါတီ) | ၂ | - | ၂ | ၁ | ၅ | ၀.၄၃ |
| ၁၀။ | ကချင်ပြည်နယ်ဒီမိုကရေစီပါတီ | ၁ | - | ၃ | - | ၄ | ၀.၃၅ |
| ၁၁။ | မွန်အမျိုးသားပါတီ | - | ၁ | ၂ | - | ၃ | ၀.၂၆ |

| စဉ် | ပါတီအမည် | ပြည်သူ့ | အမျိုးသား | ပြည်နယ်/တိုင်း | တိုင်းရင်းသား | ပေါင်း | ရာခိုင်နှုန်း |
|---|---|---|---|---|---|---|---|
| ၁၂။ | “ဝ”ဒီမိုကရက်တစ်ပါတီ | ၁ | – | ၂ | ၂ | ၃ | ၀.၂၆ |
| ၁၃။ | တိုင်းလိုင်(ရှမ်းနီ)အမျိုးသားများဖွံ့ဖြိုးတိုးတက်ရေးပါတီ | – | – | ၁ | ၁ | ၂ | ၀.၁၇ |
| ၁၄။ | လားဟူအမျိုးသားဖွံ့ဖြိုးတိုးတက်ရေးပါတီ | – | – | ၁ | ၁ | ၂ | ၀.၁၇ |
| ၁၅။ | ကိုးကန့်ဒီမိုကရေစီနှင့်ညီညွတ်ရေးပါတီ | ၁ | – | ၁ | – | ၂ | ၀.၁၇ |
| ၁၆။ | တိုင်းရင်းသားစည်းလုံးညီညွတ်ရေးပါတီ | – | ၁ | – | – | ၁ | ၀.၀၉ |
| ၁၇။ | ရှမ်းတိုင်းရင်းသားများဒီမိုကရက်တစ်ပါတီ | – | – | ၁ | – | ၁ | ၀.၀၉ |
| ၁၈။ | ကရင်ပြည်သူ့ပါတီ | – | – | ၁ | – | ၁ | ၀.၀၉ |
| ၁၉။ | ဒီမိုကရက်တစ်ပါတီ(မြန်မာ) | – | – | ၁ | – | ၁ | ၀.၀၉ |
| ၂၀။ | မွန်ဒေသလုံးဆိုင်ရာဒီမိုကရေစီပါတီ | – | – | ၁ | – | ၁ | ၀.၀၉ |
| ၂၁။ | “ဝ”အမျိုးသားစည်းလုံးညီညွတ်ရေးပါတီ | – | – | ၁ | – | ၁ | ၀.၀၉ |
| ၂၂။ | စည်းလုံးညီညွတ်ရေးနှင့်ဒီမိုကရေစီပါတီ ကချင်ပြည်နယ်(စဒက) | – | – | ၁ | – | ၁ | ၀.၀၉ |
| ၂၃။ | အာခါအမျိုးသားဖွံ့ဖြိုးတိုးတက်ရေးပါတီ | – | – | – | ၁ | ၁ | ၀.၀၉ |
|  | **စုစုပေါင်း** | ၃၂၃ | ၁၆၈ | ၆၃၀ | ၂၉ | ၁၁၅၀ |  |

## ကျေးလက်ဒေသဖွံ့ဖြိုးရေး လုပ်ငန်းစဉ်(၅)ရပ်

၁။ ကျေးလက်ဒေသ လမ်းပန်းဆက်သွယ်မှုကောင်းမွန်ရေး။
၂။ ကျေးလက်ဒေသ သောက်သုံးရေဖူလုံစွာ ရရှိရေး။
၃။ ကျေးလက်နေပြည်သူများ၏ ပညာရေးအဆင့်အတန်းမြင့်မားရေး။
၄။ ကျေးလက်နေပြည်သူများ၏ ကျန်းမာရေးအဆင့်အတန်းမြင့်မားရေး။
၅။ ကျေးလက်ဒေသ စီးပွားဖွံ့ဖြိုးတိုးတက်ရေး။

## ကျေးလက်ဒေသဖွံ့ဖြိုးရေးနှင့် ဆင်းရဲနွမ်းပါးမှုလျှော့ချရေး လုပ်ငန်းစဉ် (၈)ရပ်

၁။ လယ်ယာကုန်ထုတ်လုပ်မှု ဖွံ့ဖြိုးတိုးတက်ရေး
၂။ သားငါးထုတ်လုပ်မှုနှင့် ကျေးလက်လူမှုစီးပွားဖွံ့ဖြိုးတိုးတက်ရေး
၃။ ကျေးလက်ဒေသ အသေးစားကုန်ထုတ်လုပ်ငန်းများ ဖွံ့ဖြိုးတိုးတက်ရေး
၄။ အသေးစားပုဂ္ဂလိက ငွေစုငွေချေးလုပ်ငန်းများ ဖွံ့ဖြိုးတိုးတက်ရေး
၅။ သမဝါယမလုပ်ငန်းများ ဖွံ့ဖြိုးတိုးတက်ရေး
၆။ ကျေးလက်စွမ်းအင် ဖွံ့ဖြိုးတိုးတက်ရေး
၇။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး
၈။ စာရင်းအင်းအချက်အလက်များကောက်ယူစုဆောင်းရေးနှင့်စိစစ်အကဲဖြတ်ရေး

## ကျေးလက်လူမှုစီးပွားဖွံ့ဖြိုးတိုးတက်ရေး လုပ်ငန်းနယ်ပယ်(၆)ရပ်

၁။ ပညာရေး
၂။ ကျန်းမာရေး
၃။ လူ့စွမ်းအားအရင်းအမြစ် ဖွံ့ဖြိုးတိုးတက်ရေး
၄။ လမ်းပန်းဆက်သွယ်ရေး
၅။ ဆက်သွယ်ရေး
၆။ သန့်ရှင်းသော သောက်သုံးရေရရှိရေး

## မြန်မာနိုင်ငံအစိုးရအဆက်ဆက်တွင် လွတ်ငြိမ်းချမ်းသာခွင့်ပေးခဲ့သည့် ဖြစ်စဉ်များ

၁။ ၁၉၅၆ ခုနှစ်၊ မေလ ဆဋ္ဌမ သင်္ဂါယနာတင်ပွဲနှင့် သာသနာနှစ် ၂၅၀၀ ပြည့်အဖြစ် ဝန်ကြီးချုပ် ဦးနုက အထူးလျှော့ရက်များ ထုတ်ပြန်၍ အကျဉ်းသားများကို လွတ်ငြိမ်းခွင့်ပေးခဲ့။

၂။ ၁၉၆၃ ခုနှစ်၊ ဧပြီလ ၃ရက်နေ့တွင် အထွေထွေ လွတ်ငြိမ်းချမ်းသာခွင့် ထုတ်ပြန်ကြေညာခဲ့သည်။အဆိုပါအမိန့်အရမြန်မာတစ်နိုင်ငံလုံးရှိအကျဉ်းထောင်များမှ အကျဉ်းသား ၁၂၀၀၀ ခန့် လွတ်ငြိမ်းချမ်းသာခွင့်ပေးခဲ့။ ပုဒ်မ (၅)ဖြင့် ဖမ်းဆီးထားသူ နိုင်ငံရေးသမား ၂၃ဦး၊ သတင်းစာ ဆရာ ငါးဦး၊ ကျောင်းသား ၁၃ ဦး၊ ကေအင်ဒီအို ငါးဦးနှင့် တရားစွဲဆို ခြင်းခံနေရသူ လေးဦးကို လွှတ်ပေးခဲ့။ လွတ်လာသူများတွင် သခင်စိုး၏ ဇနီးဟောင်း ဒေါ်နှင်းမေ၊ ဗမာပြည်ကွန်မြူနစ်ပါတီ ဗဟိုကော်မတီဝင် မစ္စတာရာဂျန်၊ ကရင်နီ အမျိုးသားတိုးတက်ရေးပါတီ ဥက္ကဋ္ဌ မိုးကျော်(ခ) ကျော်နိုင်တို့ ပါဝင်။

၃။ ၁၉၇၁ ခုနှစ်၊ ဇွန်လ ၂၇ ရက် မြန်မာ့ဆိုရှယ်လစ် လမ်းစဉ်ပါတီ၏ ပထမ အကြိမ်ညီလာခံ အထိမ်းအမှတ်အဖြစ် ရာဇဝတ်ပြစ်ဒဏ်များကို လျှော့ပေါ့ခြင်းဆိုင်ရာ ကြေညာချက်ကို ထုတ်ပြန်ခဲ့။

၄။ ၁၉၈၀ ပြည့်နှစ် မေလ ၂၈ ရက်နေ့ ရက်စွဲဖြင့် လွတ်ငြိမ်းချမ်းသာခွင့်အမိန့် ထုတ်ပြန်ခဲ့။ တစ်နိုင်ငံလုံး အကျဉ်းထောင် အသီးသီးနှင့် ရဲဘက်စခန်းမှ အကျဉ်းသား ၃၉၄၄ ဦးတို့ကို လွှတ်ပေးခဲ့။

၅။ ၁၉၈၈ ခုနှစ်တွင် မြန်မာတစ်နိုင်ငံလုံး၌ လူထုအုံကြွမှု ဖြစ်ပွားခဲ့သောကြောင့် အကျဉ်းထောင်များမှ အကျဉ်းသားများကို ထောင်ဖွင့်လွှတ်ပေးခဲ့။ ယင်းကာလ နောက်ပိုင်းတွင် ၁၉၈၈ ခုနှစ် ပြစ်မှုဆိုင်ရာ အမှုများပိတ်သိမ်းခြင်း၊ ပြစ်ဒဏ်ကျခံနေရသူများအား ပြစ်ဒဏ်ပြောင်းလဲ လျှော့ပေါ့ခြင်းနှင့် ကြားနာစစ်ဆေးဆဲ ပြစ်မှုဆိုင်ရာ အမှုများပိတ်သိမ်းခြင်း စသည်တို့ကို ထုတ်ပြန်၍ ကန့်သတ်လွတ်ငြိမ်းချမ်းသာခွင့်ပေးခဲ့။

၆။ ၂၁-၇-၁၉၈၉ ရက်နေ့တွင် နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှု တည်ဆောက်ရေးအဖွဲ့က အမိန့်အမှတ်(၄/၈၉)ဖြင့် အကျဉ်းသား ၂၈၄၅၃ ဦးအား လွတ်ငြိမ်းချမ်းသာခွင့်ပေးခဲ့။

၇။ ၁၉၉၂ ခုနှစ်၊ ဧပြီလ ၂၄ ရက်နေ့တွင် ကြေညာချက်အမှတ် ၁၁/၉၂ကို ထုတ်ပြန်၍ ပြစ်ဒဏ်ကျခံနေရသူများအနက် နိုင်ငံတော်လုံခြုံရေးကို ထိခိုက်မှု မရှိသော နိုင်ငံသား အကျဉ်းသား ၂၂၆၄ ဦးနှင့် နိုင်ငံခြားသား အကျဉ်းသား ၁၄၇ ဦးကို ပြန်လွှတ်ပေးခဲ့။

၈။ ၁၉၉၃ ခုနှစ်၊ ဇန်နဝါရီလ ၁ ရက်နေ့တွင် နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှု တည်ဆောက်ရေးအဖွဲ့ အမိန့်အမှတ် ၁/၉၃ ဖြင့် ပြစ်ဒဏ်များ ပြောင်းလဲ လျှော့ပေါ့ခြင်းဆိုင်ရာအမိန့်ကို ထုတ်ပြန်၍ ကန့်သတ်လွတ်ငြိမ်းချမ်းသာခွင့် ပြုခဲ့။ ထိုလွတ်ငြိမ်းချမ်းသာခွင့်ကြောင့် အကျဉ်းသား ၁၇၀၈ ဦး လွတ်ငြိမ်း ချမ်းသာ ခွင့်ရရှိခဲ့။

၉။ ၁၉၉၅ ခုနှစ်၊ မတ်လ ၂၅ရက်နေ့တွင် ပထရ၏ စာအမှတ်၁၀၀/၁-ရဖ (၃၁) ပထရ (တပ်မတော် ရွှေရတုအထိမ်းအမှတ်) ဖြင့် အကျဉ်းသား ၂၃၉၀၁ ဦးအား လွတ်ငြိမ်းချမ်းသာခွင့်ပြုခဲ့။

၁၀။ ၁၉၉၇ ခုနှစ်၊ ဇန်နဝါရီလ ၁၂ ရက်နေ့တွင် နိုင်ငံတော်အေးချမ်းသာယာ ရေးနှင့် ဖွံ့ဖြိုးရေးကောင်စီအမိန့်အမှတ် (၁^၉၇) ဖြင့် အကျဉ်းသား ၄၃၆၇ ဦးအား လွတ်ငြိမ်းချမ်းသာခွင့်ပြုခဲ့။

၁၁။ ၂၀၀၄ခုနှစ်၊ နိုဝင်ဘာလ ၁၈ရက်နေ့တွင် နိုင်ငံတော်အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေးကောင်စီ စာအမှတ်၊ ၀၆/နရက(ဥ/မည)ဖြင့် ပြစ်ဒဏ်ကျခံ နေရသော နိုင်ငံရေးအကျဉ်းသား ၃၉၃၇ ဦးတို့အား ဖျက်သိမ်းခဲ့သော အမျိုးသားထောက်လှမ်းရေးအဖွဲ့၏ ဆောင်ရွက်ခဲ့မှုများအနက် မလျော် ကန်သော ဆောင်ရွက်မှုများ ပါဝင်နိုင်သည်ဟု ပြန်လည်သုံးသပ်ပြီး လွတ်ငြိမ်း ချမ်းသာခွင့် ပေးခဲ့။

၁၂။ ၂၀၀၄ ခုနှစ်၊ နိုဝင်ဘာလ ၂၅ ရက်နေ့တွင် နိုင်ငံတော်အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေးကောင်စီ စာအမှတ်၊ ၀၄/နရက(ဥ/မည)ဖြင့် ပြစ်ဒဏ်ကျခံ နေရသော အကျဉ်းသား ၅၃၁၁ ဦးတို့အား ဖျက်သိမ်းခဲ့သောအမျိုးသား ထောက်လှမ်းရေးအဖွဲ့၏ ဆောင်ရွက်ခဲ့မှုများအနက် မလျော်ကန်သော ဆောင်ရွက်မှုများ ပါဝင်နိုင်သည်ဟု ပြန်လည်သုံးသပ်ပြီး ဒုတိယအကြိမ် လွတ်ငြိမ်းချမ်းသာခွင့်ပေးခဲ့။

၁၃။ ၂၀၀၄ ခုနှစ်၊ ဒီဇင်ဘာလ ၁၀ ရက်နေ့တွင် နိုင်ငံတော်အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေးကောင်စီ စာအမှတ်၊ ၀၄/နရက(ဥ/မည)ဖြင့် အကျဉ်းသား

၅၀၇၀ ဦးတို့အား ဖျက်သိမ်းခဲ့သော အမျိုးသားထောက်လှမ်းရေးအဖွဲ့၏ ဆောင်ရွက်ခဲ့မှုများအနက် မလျော်ကန်သော ဆောင်ရွက်မှုများ ပါဝင်နိုင်သည်ဟု ပြန်လည်သုံးသပ်ပြီး တတိယအကြိမ် လွတ်ငြိမ်းချမ်းသာခွင့် ပေးခဲ့။

၁၄။ နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ၏ ၃၁-၁၂-၂၀၀၄ ရက်စွဲပါစာအမှတ်၊ ၀၄/နရက (ဥ/မည) ဖြင့်(၅၇)နှစ်မြောက် လွတ်လပ်ရေးနေ့ အထိမ်းအမှတ်အဖြစ် အကျဉ်းသား ၅၅၈၈ ဦးအား အကျင့်စာရိတ္တ ကောင်းမွန်လာသော အကျဉ်းသားများအား ငဲ့ညှာသောအားဖြင့်လည်း ကောင်း၊ ယင်းတို့၏ မိသားစုများအား ငဲ့ညှာသောအားဖြင့်လည်းကောင်း၊ ၎င်းတို့သည် နိုင်ငံတော်၏ မေတ္တာ၊ စေတနာကို နားလည်ပြီး မိမိအကျိုး၊ ဒေသအကျိုးနှင့် နိုင်ငံ့အကျိုးကို ဆက်လက်သယ်ပိုးရွက်ဆောင် သွားကြလိမ့်မည်ဟု မျှော်လင့်သဖြင့်လည်းကောင်း၊ သက်ဆိုင်ရာ အကျဉ်းစခန်း အသီးသီးမှ ၂၀၀၅ ခုနှစ်၊ ဇန်နဝါရီလ ၃ ရက်နေ့မှစ၍ လွှတ်ပေးလိုက်ခြင်းဖြစ်။ ထိုသို့လွှတ်ပေးခြင်းမှာ ပြည်ထောင်စုမပြိုကွဲရေး၊ တိုင်းရင်းသား စည်းလုံးညီညွတ်မှုမပြိုကွဲရေးနှင့် အချုပ်အခြာအာဏာ တည်တံ့ခိုင်မြဲရေး တည်းဟူသော ဒို့တာဝန်အရေးသုံးပါးကို ဦးထိပ်ထားခြင်းဖြစ်။

၁၅။ ၂၀၀၅ ခုနှစ်၊ ဇူလိုင်လ ၃ ရက်နေ့တွင် နိုင်ငံတော်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ၏ စာအမှတ်၊ ၀၄/နရက(ဥ/မည)ဖြင့် အကျဉ်းသား ၄၁၀ ဦးအား လွတ်ငြိမ်းချမ်းသာခွင့်ပြုခဲ့။

၁၆။ ၂၀၀၆ ခုနှစ်၊ ဒီဇင်ဘာလ ၃၀ ရက်နေ့ နံနက် ၁၁ နာရီ ၃၅ မိနစ်တွင် မူဆယ်မြို့နယ်၊ ကြယ်ဂေါင်နယ်စပ်ဂိတ်၌ တရုတ်နိုင်ငံသား အကျဉ်းသား ၃၀ ဦးနှင့် အကျဉ်းသူတစ်ဦးအား တရုတ်ပြည်သူ့သမ္မတနိုင်ငံ၏ မေတ္တာရပ်ခံချက်အရ လွှဲပြောင်းပေးအပ်ခဲ့သည်။ နှစ်နိုင်ငံ ချစ်ကြည်ရေးကို ရှေးရှု၍ ၂၀၀၆ ခုနှစ်၊ မေလ ၂၇ ရက်နေ့တွင် တရုတ်နိုင်ငံသား အကျဉ်းသား၊ အကျဉ်းသူ ၈၆ ဦးကိုလည်းကောင်း၊ ဇွန် ၇ ရက်နေ့တွင် ၉၆ ဦးအား လည်းကောင်း၊ ဇွန် ၁၇ ရက်တွင် ၄၂၇ ဦးအားလည်းကောင်း၊ ဩဂုတ် ၁၆ ရက်နေ့တွင် ၆၉ ဦးအားလည်းကောင်း၊ စုစုပေါင်း တရုတ်နိုင်ငံသား အကျဉ်းသား၊ အကျဉ်းသူ ၆၇၈ ဦးတို့ကို လွှဲပြောင်းပေးအပ်ခဲ့သည်။

၁၇။ နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ၏ ၂-၁-၂၀၀၇ ရက်စွဲပါစာအမှတ်၊ ၀၄/နရက(ဥ/မည)ဖြင့် ၂၀၀၇ခုနှစ်၊ ဇန်နဝါရီလ ၄

ရက်နေ့တွင် ကျရောက်သည့် (၅၉) နှစ်မြောက် လွတ်လပ်ရေးနေ့ အထိမ်းအမှတ်အဖြစ် အကျဉ်းသား၂၈၃၁ ဦးအား နိုင်ငံတော်တည်ဆောက်ရေးတွင် တစ်ဖက်တစ်လမ်းမှ ပါဝင်လာစေရန်အတွက်လည်းကောင်း၊ ၅၉ နှစ်မြောက်လွတ်လပ်ရေးနေ့ အထိမ်းအမှတ်အဖြစ်လည်းကောင်း၊ ဇန်နဝါရီလ ၃ ရက်နေ့တွင် ပြစ်ဒဏ်မှ လွတ်ငြိမ်းချမ်းသာခွင့်ပေးခဲ့။

၁၈။ နိုင်ငံတော်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ၏ ၁၅-၁၁-၂၀၀၇ ရက်စွဲပါစာအမှတ်၊ ၀၆/နရက(ဥ/မည)ဖြင့် ၂၀၀၇ ခုနှစ်၊ နိုဝင်ဘာလ ၁၆ ရက်မှ ဒီဇင်ဘာလ ၃ ရက်အတွင်း အကျဉ်းသား ၈၅၈၅ ဦးအား ၂၀၀၇ ခုနှစ် စက်တင်ဘာလတွင် အမျိုးသားညီလာခံကြီးကို အောင်မြင်စွာ ကျင်းပပြီးစီးနိုင်ခဲ့ခြင်းကိုလည်းကောင်း၊ နိုင်ငံတော်ရှေ့ဆက်သွားမည့် မူဝါဒလမ်းစဉ်(၇) ရပ်အနက် တတိယအဆင့်ဖြစ်သည့် နိုင်ငံတော်ဖွဲ့စည်းပုံ အခြေခံဥပဒေမူကြမ်းရေးဆွဲရေးကော်မရှင်ကို ဖွဲ့စည်းခဲ့ပြီးလုပ်ငန်းများ စတင်ဆောင်ရွက်နိုင်သည့် အထိမ်းအမှတ်အဖြစ်လည်းကောင်း၊ ပြည်တွင်း အမျိုးသားစည်းလုံးညီညွတ်ရေးနှင့် ကမ္ဘာ့ကုလသမဂ္ဂအသင်းကြီး အပါအဝင် နိုင်ငံတကာနှင့် ချစ်ကြည်ရင်းနှီးစွာ ပူးပေါင်းလက်တွဲ ဆောင်ရွက်မှု အထိမ်းအမှတ်အဖြစ်လည်းကောင်း ရည်ရွယ်ရှေးရှုပြီး လွတ်ငြိမ်းချမ်းသာ ခွင့်ပေးခြင်းဖြစ်။ ဖော်ပြပါ အကျဉ်းသားများထဲ၌ နိုဝင်ဘာ ၃၀ ရက်နေ့တွင် ထိုင်းနိုင်ငံသား အကျဉ်းသား ၃၃ ဦးလည်း ပါဝင်။

၁၉။ နိုင်ငံတော်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ၏ ၂၃-၉-၂၀၀၈ ရက်စွဲပါစာအမှတ်၊ ၁၁/နရက(ဥ/မည)ဖြင့် အကျဉ်းသား ၉၀၀၂ ဦးအား လူမှုရေးအရ စာနာထောက်ထားခြင်းအားဖြင့် လည်းကောင်း၊ ယင်းတို့၏ မိသားစုများအား ငဲ့ညှာသောအားဖြင့်လည်းကောင်း၊ ၎င်းတို့သည် နိုင်ငံတော်၏ မေတ္တာ၊ စေတနာကို နားလည်ကြပြီး မိမိအကျိုး၊ ဒေသအကျိုးနှင့်၂၀၁၀ ပြည့်နှစ်အတွင်း ကျင်းပခဲ့သည့် တရားမျှတသော ရွေးကောက်ပွဲများတွင်လည်း အများပြည်သူတို့နှင့်အတူတူ နိုင်ငံတော်အကျိုးကို ထမ်းရွက်သွားနိုင်ကြစေရန်အတွက်လည်းကောင်း ပြစ်ဒဏ်ကျခံခြင်း ရပ်စဲ၍ လွတ်ငြိမ်းချမ်းသာခွင့်များ ပေးအပ်ခဲ့။

၂၀။ နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ၏ ၂၀-၂-၂၀၀၉ ရက်စွဲပါစာအမှတ်၊ ၀၆/နရက(ဥ/မည)ဖြင့် ၂၀၀၉ ခုနှစ်၊ ဖေဖော်ဝါရီ ၂၁

ရက်နေ့တွင် နိုင်ငံသားအကျဉ်းသား၊ အကျဉ်းသူ ၆၃၁၃ ဦးတို့အား လူသားချင်း စာနာထောက်ထားမှုနှင့် သနားချစ်ခင်မှုတို့ကို အလေးထားသည့်အနေဖြင့် လည်းကောင်း၊ ယင်းတို့၏ မိသားစုများအား ငဲ့ညှာသောအနေဖြင့်လည်း ကောင်း၊ ယင်းတို့သည် နိုင်ငံတော်၏ မေတ္တာနှင့်စေတနာကို နားလည်ကြပြီး မိမိအကျိုး၊ ဒေသအကျိုးနှင့်၂၀၁၀ ပြည့်နှစ်အတွင်း ကျင်းပခဲ့သည့် တရား မျှတသော ရွေးကောက်ပွဲများတွင်လည်း အများပြည်သူတို့နှင့်အတူ နိုင်ငံတော် အကျိုးကို ထမ်းရွက်သွားနိုင်ကြစေရန်အတွက်လည်းကောင်း ပြစ်ဒဏ်ကျခံ ခြင်းမှ ရပ်စဲ၍ လွတ်ငြိမ်းချမ်းသာခွင့်များပေးခဲ့။

၂၁။ ၂၀၁၉ ခုနှစ်၊ စက်တင်ဘာလ ၁၇ ရက်နေ့တွင် နိုင်ငံတော်အေးချမ်းသာယာ ရေးနှင့် ဖွံ့ဖြိုးရေးကောင်စီသည် ပြစ်မှုဆိုင်ရာ ကျင့်ထုံးဥပဒေပုဒ်မ ၄၀၁၊ ပုဒ်မခွဲ (၁)အရ အကျဉ်းသား ၇၁၁၄ ဦးတို့အား လွတ်ငြိမ်းချမ်းသာခွင့်ပြုခဲ့။

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရလက်ထက်တွင် လွတ်ငြိမ်းချမ်းသာခွင့်ပေးခဲ့သော ဖြစ်စဉ်များ (၂၀၁၁-၂၀၁၅)

ပထမအကြိမ် (၁၆-၅-၂၀၁၁ ရက်နေ့တွင် လွတ်ငြိမ်းချမ်းသာခွင့် ပြုခဲ့သည့် အကျဉ်းသား ၁၄၇၅၈ ဦး)

ဒုတိယအကြိမ် (၁၁-၁၀-၂၀၁၁ ရက်နေ့တွင် လွတ်ငြိမ်းချမ်းသာခွင့်ပြုခဲ့သည့် အကျဉ်းသား ၆၃၅၉ ဦး)

တတိယအကြိမ် (၂-၁-၂၀၁၂ ရက်နေ့တွင် လွတ်ငြိမ်းချမ်းသာခွင့်ပြုခဲ့သည့် အကျဉ်းသား ၆၆၅၆ ဦး)

စတုတ္ထအကြိမ် (၁၂-၁-၂၀၁၂ ရက်နေ့တွင် လွတ်ငြိမ်းချမ်းသာခွင့် ပြုခဲ့သည့် အကျဉ်းသား ၆၅၁ ဦး)

ပဉ္စမအကြိမ် (၃-၇-၂၀၁၂ ရက်နေ့တွင် ပြစ်ဒဏ်လွတ်ငြိမ်းခွင့်ပြုခဲ့သည့် အကျဉ်းသား ၈၀ ဦး)

ဆဋ္ဌမအကြိမ် (၁၇-၉-၂၀၁၂ ရက်နေ့တွင် ပြစ်ဒဏ်လွတ်ငြိမ်းခွင့်ပြုခဲ့သည့် အကျဉ်းသား ၅၁၄ ဦး)

သတ္တမအကြိမ် (၁၅-၁၁-၂၀၁၂ ရက်နေ့တွင် ပြစ်ဒဏ်လွတ်ငြိမ်းခွင့် ပြုခဲ့သည့် အကျဉ်းသား ၄၅၂ ဦး)

အဋ္ဌမအကြိမ် (၁၆-၁၁-၂၀၁၂ ရက်နေ့တွင် ပြစ်ဒဏ်လွတ်ငြိမ်းခွင့်ပြုခဲ့သည့် အကျဉ်းသား ၆၆ ဦး)

နဝမအကြိမ် (၂၃-၄-၂၀၁၃ ရက်နေ့တွင် ပြစ်ဒဏ်လွတ်ငြိမ်းခွင့်ပြုခဲ့သည့် အကျဉ်းသား ၉၃ ဦး )

ဒသမအကြိမ် (၂-၁-၂၀၁၄ ရက်နေ့တွင် ပြစ်ဒဏ်လွတ်ငြိမ်းခွင့်ပြုခဲ့သည့် အကျဉ်းသား ၁၃၂၄၇ ဦး )

ဧကဒသမအကြိမ် (၃၀-၇-၂၀၁၅ ရက်နေ့တွင် ပြစ်ဒဏ်လွတ်ငြိမ်းခွင့်ပြုခဲ့သည့် အကျဉ်းသား ၆၉၆၆ ဦး)

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် အစိုးရလက်ထက်တွင် လွတ်ငြိမ်းချမ်းသာခွင့်ပေးခဲ့သော ဖြစ်စဉ်များ (၂၀၁၆-၂၀၂၀)

ပထမအကြိမ် (၈-၄-၂၀၁၆ ရက်နေ့တွင် လွတ်ငြိမ်းချမ်းသာခွင့်ပြုခဲ့သည့် အကျဉ်းသား ၁၉၉ ဦး)

ဒုတိယအကြိမ် (၁၇-၄-၂၀၁၆ ရက်နေ့တွင် လွတ်ငြိမ်းချမ်းသာခွင့်ပြုခဲ့သည့် အကျဉ်းသား ၈၃ ဦး)

တတိယအကြိမ် (၁၂-၄-၂၀၁၇ ရက်နေ့တွင် လွတ်ငြိမ်းချမ်းသာခွင့်ပြုခဲ့သည့် အကျဉ်းသား ၁၈၈၃ ဦး)

စတုတ္ထအကြိမ် (၂၃-၅-၂၀၁၇ ရက်နေ့တွင် လွတ်ငြိမ်းချမ်းသာခွင့်ပြုခဲ့သည့် အကျဉ်းသား ၁၈၆ ဦး၊ နိုင်ငံခြားသားအကျဉ်းသား ၇၃ ဦး)

ပဉ္စမအကြိမ် (၇-၈-၂၀၁၇ ရက်နေ့တွင် လွတ်ငြိမ်းချမ်းသာခွင့်ပြုခဲ့သည့် ကျောင်းသားကျောင်းသူ အကျဉ်းသား ၇ ဦး)

ဆဋ္ဌမအကြိမ် (၁၇-၄-၂၀၁၈ ရက်နေ့တွင် လွတ်ငြိမ်းချမ်းသာခွင့်ပြုခဲ့သည့် အကျဉ်းသား ၈၄၉၀ ဦး၊ နိုင်ငံခြားသားအကျဉ်းသား ၅၁ ဦး)

သတ္တမအကြိမ် (၁၇-၄-၂၀၁၉ ရက်နေ့တွင် လွတ်ငြိမ်းချမ်းသာခွင့်ပြုခဲ့သည့် အကျဉ်းသား/အကျဉ်းသူ ၉၅၃၅ ဦး)

အဋ္ဌမအကြိမ် (၂၆-၄-၂၀၁၉ ရက်နေ့တွင် လွတ်ငြိမ်းချမ်းသာခွင့်ပြုခဲ့သည့် အကျဉ်းသား/အကျဉ်းသူ ၆၉၄၈ ဦး)

နဝမအကြိမ် (၇-၅-၂၀၁၉ ရက်နေ့တွင် လွတ်ငြိမ်းချမ်းသာခွင့်ပြုခဲ့သည့် အကျဉ်းသား/ အကျဉ်းသူ ၆၅၂၀ ဦး)

ဒသမအကြိမ် (၁၇-၄-၂၀၂၀)ရက်နေ့တွင် လွတ်ငြိမ်းချမ်းသာခွင့်ပြုခဲ့သည့် အကျဉ်းသား/ အကျဉ်းသူ ၂၄၈၉၆ ဦး၊ နိုင်ငံခြားအကျဉ်းသား ၈၇ ဦး)

